ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၀၆/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဝင်းလွင်

(ခ) **အဘ အမည်** ဦးအောင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ဗတထ(နိုင်) ၀၂၈၆၃၉

(ဃ) **နေရပ်လိပ်စာ** အမှတ်(၉၈)၊ မြေညီထပ်၊ လမ်း(၅၀)၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Myat Mi Ba Company Limited (မြတ်မိဘ ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ချေးချွတ်မှုန့်နှင့် အဝတ်လျှော်ဆပ်ပြာတောင့်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းပိုင် ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၅၄၀၀ (US$ ၂.၈၅၇ သန်း အပါအဝင် ကျပ်သန်းပေါင်း ငါးထောင့်လေးရာတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၁၉ /၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် ဒီဇင်ဘာ လ ၁၀ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်] သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်းပိုင် ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်) အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ) အကျယ်အဝန်းရှိသော မြေနှင့် အဆောက်အဦအားငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ဈေးချွတ်မှုန့်နှင့် အဝတ်လျှော် ဆပ်ပြာတောင့်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၃- ၁၁-၂၀၁၅) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၅)ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]အား ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ဈေးချွတ်မှုန့်နှင့် အဝတ်လျှော်ဆပ်ပြာများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊မနသ- ၁၁၀၆/၂၀၁၅ ကို ထုတ်ပေးလိုက်သည်။

၂။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန် တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဥ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော စက်မှုဝန်ကြီး ဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းပိုင် ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)အား ငှားရမ်းဆောင်ရွက် သည့် စတုတ္ထအကြိမ် ပြင်ဆင်သည့် သဘောတူစာချုပ်ပါ စည်းမျဥ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ၁-၁၀-၂၀၁၁ မှ ၃၀-၉-၂၀၆၁ ထိ နှစ်(၅၀)နှင့် သက်တမ်းတိုးမြှင့် ငှားရမ်းလိုပါက တစ်ကြိမ်လျှင် (၁၀)နှစ်စီ ဖြင့် (၂)ကြိမ်ဖြစ်ပါသည်။ ထိုသို့ စာချုပ်သက်တမ်းကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် စက်ရုံ၊ မြေနှင့် အဆောက်အဦများ၏ ငှားရမ်းခနှုန်းထားအဖြစ် တစ်နှစ်လျှင် ကျပ် ၄၀၅၀၀၀၀၀ (ကျပ်သန်း လေးဆယ်နှင့် ငါးသိန်းတိတိ)အား စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်းသို့ ပေးသွင်းရ မည်။

၉။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ကို ဆောင်ရွက်နိုင်ရန်အတွက် ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်(၂)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း နှင့် အငှားချထားခြင်းခံရသူ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]တို့ ချုပ်ဆိုမည့် ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)အား ငှားရမ်းဆောင်ရွက်သည့် စတုတ္ထအကြိမ် ပြင်ဆင်သည့်

သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ဆောင်ပြီး သည့်အခါ ယင်းသဘော တူစာချုပ်မိတ္တူ(၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဥ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

၁၁။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျှော့နည်းစေရေး တို့အတွက် (Environmental Impact Assessment - EIA) ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံ ရမည်။

၁၂။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက် ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၃။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း များ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင် ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်း များပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထား သည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ

လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၆။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

ကန့်သတ်


၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃ / မ-၁၂၃၆ / ၂၀၁၅ (၁၅၅၅-၁)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၆ ရက်

**ဖြန့်ဝေခြင်း**

သမ္မတရုံးစီးရုံး
ဒုတိယသမ္မတ(၁)ရုံးစီးရုံး
ဒုတိယသမ္မတ(၂)ရုံးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ကန့်သတ်

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Myat Mi Ba Company Limited [မြတ်မိဘကုမ္ပဏီလီမိတက်]

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

" မြတ်မိဘ " ကုမ္ပဏီလီမိတက်

မှ

စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းပိုင်

မြေနှင့်ယင်းမြေပေါ်ရှိ

အဆောက်အဦနှင့်စက်ပစ္စည်းများငှားရမ်း၍

ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap bars

ထုတ်လုပ်ခြင်း ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက်

" အဆိုပြုလွှာတင်ပြချက် "

**မြတ်မိဘကုမ္ပဏီ လီမိတက်**

**ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်Laundry Soap Bars ထုတ်လုပ်၊ ရောင်းချမည့်**

**လုပ်ငန်းအား ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခြင်း**

**<u>အညွှန်း</u>**

| | | |
|---|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်မည့်လုပ်ငန်းအားခွင့်ပြုပေးပါရန် အဆိုပြုတင်ပြစာ | |
| ၂။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားစာ | |
| ၃။ | မနသ ပုံစံ (၁) | |
| ၄။ | ကတိဝန်ခံချက် | |
| ၅။ | ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ် | |
| ၆။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ် | |
| ၇။ | မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ် | |
| ၈။ | ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ကတိဝန်ခံချက် | |
| ၉။ | CSR အတွက် ၂ % အသုံးပြုမည်ဖြစ်ကြောင်းတင်ပြစာ | |
| ၁၀။ | ထုတ်လုပ်မှုနည်းစဉ်၊ Process Description and flow diagrams | |
| ၁၁။ | သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan) | |
| ၁၂။ | ပြည်ပမှတင်သွင်းမည့် စက်နှင့်စက်ပစ္စည်းများ၏ ပုံများ၊ အချက်အလက်များ | |
| ၁၃။ | ထုတ်လုပ်မည့် Laundry Soap Bars များ၏ ဓါတ်ပုံများ | |
| ၁၄။ | အသစ်ဆောက်လုပ်မည့် စက်ရုံအဆောက်အဦ၏ ပုံစံနှင့် BQ များ | |
| ၁၅။ | စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းမှ အထောက်အထားများ | |
| ၁၆။ | စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းမှ မြေနှင့်ယင်းမြေပေါ်ရှိအဆောက်အဦနှင့် စက်ပစ္စည်းများ (၅၀ + ၁၀ + ၁၀)ငှားရမ်းခြင်းသဘောတူစာချုပ် (ရှေ့နေချုပ်ရုံးမှတ်ချက်ပါ) | |
| ၁၇။ | ငှားရမ်းထားသည့်စက်နှင့်အဆောက်အဦများ၏ ဓာတ်ပုံများ | |
| ၁၈။ | ဘဏ္ဍာရေးအချက်အလက်များနှင့် အထောက်အထားစာရွက်စာတမ်းများ | |
| ၁၉။ | ကုမ္ပဏီဆိုင်ရာ အထောက်အထားစာရွက်စာတမ်းများ | |
| ၂၀။ | အစုရှယ်ယာရှင်များနှင့် ဒါရိုက်တာများစာရင်း | နောက်ဆက်တွဲ (၁) |
| ၂၁။ | ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုစာရင်းများ | နောက်ဆက်တွဲ (၂) မှ နောက်ဆက်တွဲ (၁၅) |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈
ဖက်(စ်) -၀၁-၆၅၈၁၄၁

စာအမှတ်၊ ရက-၃/မ-၁၂၃၆/၂၀၁၅( ၁၀၅၉ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၈ ရက်

အကြောင်းအရာ။ **မြတ်မိဘကုမ္ပဏီလီမိတက်မှ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြတ်မိဘကုမ္ပဏီလီမိတက်၏ ၂၉-၇-၂၀၁၅ ရက်စွဲပါစာ

၂၀၁၅ ခုနှစ် ဩဂုတ်လ ၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၇/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ မြတ်မိဘကုမ္ပဏီလီမိတက်မှ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စအပေါ် ဖြည့်စွက်ပြင်ဆင်ရမည့် အချက်များကို ဆက်လက်အကြောင်းကြားမည် ဖြစ်ကြောင်းနှင့် အဆိုပြုလွှာကို လက်ခံကြောင်း အကြောင်းပြန်ကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

**မြတ်မိဘကုမ္ပဏီလီမိတက်**
**ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)**
**အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်**
**ရန်ကုန်တိုင်းဒေသကြီး။**

မိတ္တူကို
ကုမ္ပဏီများညွှန်ကြားမှုဌာန
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်

တယ်လီဖုန်း-၉၅-၁-၆၅၈၁၂၈
ဖက်(စ်) -၉၅-၁-၆၅၈၁၄၁

စာအမှတ်၊ရက-၃/မ-၁၂၃၆/၂၀၁၅ ( ၁၀၈၂ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၃၂ ရက်

အကြောင်းအရာ။ **မြတ်မိဘကုမ္ပဏီလီမိတက်မှ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြတ်မိဘကုမ္ပဏီလီမိတက် ၏ ၂၉-၇-၂၀၁၅ ရက်စွဲပါစာ

၁။ မြတ်မိဘကုမ္ပဏီလီမိတက်မှ ၃၄% ၊ ဦးစိန်မင်းမှ ၃၃% နှင့် ဦးအောင်မြတ်မှ ၃၃% အသီးသီး အစုရှယ်ယာများ ထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းလွင်(အဘ-ဦးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကိစ္စအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၇/၂၀၁၅(၃-၈-၂၀၁၅)သို့ တင်ပြခဲ့ရာ အစည်းအဝေးမှ အောက်ပါ အတိုင်းဆုံးဖြတ်ခဲ့ပါသည်-

(က) ဆပ်ပြာကုန်ကြမ်းစာရင်းနှင့် အခြားကုန်ကြမ်းစာရင်း ခွဲခြားတင်ပြရန်။

(ခ) ဆပ်ပြာမှုန့်ထုတ်လုပ်ခြင်းနှင့် ဆပ်ပြာခဲထုတ်လုပ်ခြင်း လုပ်ငန်းနှစ်ခုပေါင်း၍ တွက်ချက်မှုများ ပြင်ဆင်ရန်နှင့် လုပ်ငန်းအမျိုးအစား ပြန်လည်ပြင်ဆင်တင်ပြရန်။

၂။ သို့ပါ၍ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်သည်များအား ပြင်ဆင်၍ ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ချို့ချို့ဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

**မြတ်မိဘကုမ္ပဏီလီမိတက်**
**ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)**
**အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်**
**ရန်ကုန်တိုင်းဒေသကြီး။**

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈

🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊ရက-၃/မ- ၁၂၃၆/၂၀၁၅( ၁၀၅၃ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၁ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) နိုင်ငံတော် သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ စာအမှတ်၊ ၁၀၅(၃၁)/ ၈/သမ္မတရုံး

(၂) မြတ်မိဘာကုမ္ပဏီလီမိတက်၏ ၂၉-၇-၂၀၁၅ ရက်စွဲပါစာ

၁။ မြတ်မိဘာကုမ္ပဏီလီမိတက်မှ ၃၄% ၊ ဦးစိန်မင်းမှ ၃၃% နှင့် ဦးအောင်မြတ်မှ ၃၃% အသီးသီး အစုရှယ်ယာများ ထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းလွင်(အဘ-ဦးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ် ကိုယ်တိုင် စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်း(၁)ပါ စာပိုဒ် ၃ (စ) တွင် ဖော်ပြထားပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့် နေ့မှစ၍ **ခုနစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း(၂)ပါ အဆိုပြုလွှာ တစ်စုံအား ပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/ မရှိ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်/ မဖြစ်။

(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/ မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဟုတ်-မဟုတ်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

၄။ မြတ်မိဘကုမ္ပဏီလီမိတက်နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးသန်းထိုက်ဦး၊ တယ်လီဖုန်း ၀၉-၂၅၃၃၅၀၂၅၇ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

စီမံကိန်းရေးဆွဲရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
မြတ်မိဘကုမ္ပဏီလီမိတက်
ရုံးလက်ခံ/ မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၂ ) / စိုက်မွေး

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ် လ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁. ၈. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ-၁၂၃၆ / ၂၀၁၅ (၁၀၇၃)

၁။ မြတ်မိဘကုမ္ပဏီလီမိတက်မှ ၃၄%၊ ဦးစိန်မင်း မှ ၃၃% နှင့် ဦးအောင်မြတ် မှ ၃၃% အသီးသီး အစုရှယ်ယာများထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃. ၂၃ ဧက (၅၃၅၃၉. ၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအားငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၃၀)ဦးမှ (၁၈၀)ဦးအထိ အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃. ၂၃ ဧက (၅၃၅၃၉. ၉၅၇ စတုရန်းမီတာ)အား တစ်စတုရန်းပေလျှင် တစ်နှစ်အတွက် ၇၀ ကျပ်နှုန်း၊ တစ်စတုရန်းမီတာလျှင် တစ်နှစ်အတွက် ၇၅၀ ကျပ်နှုန်းဖြင့် ကနဦး(၅၀)နှစ်နှင့် သက်တမ်းတိုးနောက်ထပ်(၁၀)နှစ် (၂)ကြိမ်ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၀. ၈. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၀/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၄)အရ မြတ်မိဘကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
✓မြတ်မိဘကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ -၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ်၊ရက- ၃/ မ- ၁၂၃၆/ ၂၀၁၅ ( ၁၈၅ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၁ ရက်

သို့
ပြည်ထောင်စုဝန်ကြီးရုံး
စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်းချက် ။ မြတ်မိဘကုမ္ပဏီလီမိတက်၏ ၂၉-၇-၂၀၁၅ ရက်စွဲပါစာ

၁။ မြတ်မိဘကုမ္ပဏီလီမိတက်မှ ၃၄% ၊ ဦးစိန်မင်းမှ ၃၃% နှင့် ဦးအောင်မြတ်မှ ၃၃% အသီးသီး အစုရှယ်ယာများ ထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းလွင်(အဘ-ဦးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့် နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအားပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ မြတ်မိဘကုမ္ပဏီလီမိတက်နှင့် ဆက်သွယ်ရန်လိပ်စာမှာ ဦးသန်းထိုက်ဦး၊ တယ်လီဖုန်း ၀၉-၂၅၃၃၅၀၂၅၇ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် ၃ အကြီးစားစက်မှုလုပ်ငန်း
မြတ်မိဘကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ -၉၅-၁-၆၅၈၁၂၈
🖷 -၉၅-၁-၆၅၈၁၄၁

စာအမှတ်၊ ရက- ၃/မ-၁၂၃၆/၂၀၁၅ ( ၅၂၉ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၈ ရက်

အကြောင်းအရာ။ **မြတ်မိဘကုမ္ပဏီလီမိတက်မှ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundary Soap Bars များ ထုတ်လုပ်ရောင်းချခြင်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၂၄-၈-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၁၇၃၃)

၁။ မြတ်မိဘကုမ္ပဏီလီမိတက်မှ ၃၄% ၊ ဦးစိန်မင်းမှ ၃၃% နှင့် ဦးအောင်မြတ်မှ ၃၃% အသီးသီး အစုရှယ်ယာများ ထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းလွင်(အဘ-ဦးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းကိစ္စအပေါ် စက်မှုဝန်ကြီးဌာနမှ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(က) လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်။

(ခ) မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး အစီအမံများနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်။

(ဃ) ကုန်ကြမ်းဓါတုပစ္စည်းများနှင့် ထုတ်ကုန်ပစ္စည်းများအား Handling, Storage နှင့် Transporation စသည့် စနစ်အားလုံးသည် သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ ကြိုတင်စီမံဆောင်ရွက်ထားရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါအချက်များအား သိရှိနိုင်ပါရန်နှင့် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်ရန် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည် တင်ပြရန် အကြောင်းကြားပါသည်။

၈.၉.၂၀၁၅

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
☎ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၄၁

စာအမှတ်၊ရက- ၃/ မ- ၁၂၃၆/ ၂၀၁၅ ( ၁၈၅၉ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၁ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်းချက် ။ မြတ်မိဘကုမ္ပဏီလီမိတက်၏ ၂၉-၇-၂၀၁၅ ရက်စွဲပါစာ

၁။ မြတ်မိဘကုမ္ပဏီလီမိတက်မှ ၃၄% ၊ ဦးစိန်မင်းမှ ၃၃% နှင့် ဦးအောင်မြတ်မှ ၃၃% အသီးသီး အစုရှယ်ယာများ ထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းလွင်(အဘ-ဦးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့် နေ့မှစ၍ **ခုနစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအားပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ မြတ်မိဘကုမ္ပဏီလီမိတက်နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးသန်းထိုက်ဦး (တယ်လီဖုန်း ၀၉-၂၅၃၃၅၀၂၅၇ )ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မြတ်မိဘကုမ္ပဏီလီမိတက်
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ -၉၅-၁-၆၅၈၁၂၈      စာအမှတ်၊ ရက- ၃/မ-၁၂၃၆/၂၀၁၅ (၁၃၀၈ )
🖷 -၉၅-၁-၆၅၈၁၄၁      ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၂၆ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ၁၂-၉-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃(၂)/၁၆(စ)(၆)/(၂၄၁၀/၂၀၁၅)

၁။ မြတ်မိဘကုမ္ပဏီလီမိတက်မှ ၃၄% ၊ ဦးစိန်မင်းမှ ၃၃% နှင့် ဦးအောင်မြတ်မှ ၃၃% အသီးသီး အစုရှယ်ယာများ ထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းလွင်(အဘ-ဦးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းကိစ္စအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ အောက်ပါ အတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(က) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆို ပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏၂% အား အသုံးပြုခြင်းတို့ အပါ အဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) လုပ်ငန်းကို ဆောင်ရွက်ပြီး အစီရင်ခံစာ ပြုစုတင်ပြရန်။

(ဂ) အဆိုပါလေ့လာဆန်းစစ်မှုရလဒ်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းစီမံချက်များနှင့် ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သော ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်

(Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါအချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြင်ဆင်တင်ပြရန် အကြောင်းကြားပါသည်။

၂၆-၉-၂၀၁၇

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

မြတ်မိဘကုမ္ပဏီလီမိတက်
ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)
အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်
ရန်ကုန်တိုင်းဒေသကြီး။
မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၄၁

စာအမှတ်၊ရက- ၃/ မ- ၁၂၃၆/၂၀၁၅ ( ၁၀၅၂ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၁ ရက်

သို့
**မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်းချက် ။ မြတ်မိဘကုမ္ပဏီလီမိတက်၏ ၂၉-၇-၂၀၁၅ ရက်စွဲပါစာ

၁။ မြတ်မိဘကုမ္ပဏီလီမိတက်မှ ၃၄% ၊ ဦးစိန်မင်းမှ ၃၃% နှင့် ဦးအောင်မြတ်မှ ၃၃% အသီးသီး အစုရှယ်ယာများ ထည့်ဝင်ကာ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ အမှတ်-၂ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၂၃ ဧက (၅၃၅၃၉.၉၅၇ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်နှင့် Laundry Soap Bars များ ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းလွင်(အဘ-ဦးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ် (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့် နေ့မှစ၍ **ခုနှစ်ရက်အတွင်း** ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းစာပါ အဆိုပြုလွှာ တစ်စုံအားပူးတွဲပေးပို့ မေတ္တာရပ်ခံအပ်ပါသည်။

၄။ မြတ်မိဘကုမ္ပဏီလီမိတက်နှင့် ဆက်သွယ်ရန်လိပ်စာမှာ ဦးသန်းထိုက်ဦး၊ တယ်လီဖုန်း ၀၉-၂၅၃၃၅၀၂၅၇ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

မြတ်မိဘကုမ္ပဏီလီမိတက် { Master Plan, Conceptual Drawing, Bill of Quantities, Building Cost များ အပါအဝင် လိုအပ်သည်များအား ကုမ္ပဏီမှ မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်းသို့ တင်ပြဆောင်ရွက်ရန်}

ရုံးလက်ခံ/မျှောစာတွဲ

မြတ်မိဘာ ကုမ္ပဏီလီမိတက်
Myat Miba Co.,Ltd.
No-111, Yangon - Insein Main Road,(9) Ward, Hlaing T/S, Yangon
Tel : 95 - 1 - 706883, 526163, 516212, 592236, 592237
Fax : 95 - 1 - 516089, E-mail : myatmiba.ho@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

စာအမှတ်။ 001 / MM / MIC / 2015

ရက်စွဲ။ ၂၀၁၅ ခုနှစ်၊ လ ( ) ရက်

အကြောင်းအရာ။ မြတ်မိဘာကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လျှောက်ထားခြင်း

၁။ အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့် ထုတ်လုပ်သည့်စက်များအားပြန်လည်ပြုပြင်ပြီး ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့် ထုတ်လုပ်မှုအပြင် Laundry Soap Bars ထုတ်လုပ်သည့်စက်ရုံသစ် တိုးချဲ့ တည်ထောင်ပြီး Laundry Soap Bars များထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါသည်။

၂။ အဆိုပါစက်ရုံကို မြတ်မိဘာကုမ္ပဏီမှ ငှားရမ်းဆောင်ရွက်နေသော စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊လှိုင်မြို့နယ်၊ အမှတ် (၂) ရပ်ကွက်ရှိ ဆပ်ပြာမှုန့်စက်ရုံ (ရန်ကုန်)၊ မြေ (၁၃.၂၃) ဧကပေါ်တွင် ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့် ထုတ်လုပ်မှုအပြင် Laundry Soap Bars ထုတ်လုပ်သည့်စက်ရုံ တည်ထောင်ပြီး Laundry Soap Bars များထုတ်လုပ်မှုလုပ်ငန်းလုပ်ကိုင် ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့် အလမ်းများရရှိစေခြင်း၊ နိုင်ငံတော်တွင်အခွန်အခများ ရရှိစေခြင်းစသည့် အကျိုးကျေးဇူးများ ရရှိနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြတ်မိဘာကုမ္ပဏီမှ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်သည့်လုပ်ငန်း အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုအရ ရင်းနှီးမြှုပ်နှံမှုအား ခွင့်ပြုပေးပါရန် အဆိုပြု တင်ပြလျှောက်ထား အပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းလွင်)

(အုပ်ချုပ်မှုဒါရိုက်တာ)

မြတ်မိဘ ကုမ္ပဏီလီမိတက်
Myat Miba Co.,Ltd.
No-111, Yangon - Insein Main Road,(9) Ward, Hlaing T/S, Yangon
Tel : 95 - 1 - 706883, 526163, 516212, 592236, 592237
Fax : 95 - 1 - 516089, E-mail : myatmiba.ho@gmail.com

သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

စာအမှတ်။ 002 / MM / MIC / 2015

ရက်စွဲ။ ၂၀၁၅ ခုနှစ်၊ လ ( ) ရက်

အကြောင်းအရာ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များလျှောက်ထားခြင်း

၁။ အထက်ဖေါ်ပြပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြုပ်နှံမှုဥပဒေအရ ကျွန်တော်များကုမ္ပဏီမှ ငှားရမ်းဆောင်ရွက်နေသော စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ အမှတ် (၂) ရပ်ကွက်ရှိ ဆပ်ပြာမှုန့်စက်ရုံ (ရန်ကုန်)၊ မြေ (၁၃.၂၃) ဧကပေါ်တွင် ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့် ထုတ်လုပ်သည့်စက်များအားပြန်လည်ပြုပြင်ပြီး ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့် ထုတ်လုပ်မှုအပြင် Laundry Soap Bars ထုတ်လုပ်သည့်စက်ရုံတည်ထောင်ပြီး Laundry Soap Bars များ ထုတ်လုပ်မှုလုပ်ငန်းလုပ်ကိုင် ဆောင်ရွက်မည်ဖြစ်ပါသည်။

၂။ မြေငှားရမ်းခကို စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်းသို့ သတ်မှတ်ချိန်အတိုင်း မြေနှင့် အဆောက်အဦငှားရမ်းရေး သဘောတူစာချုပ်အရ ပေးသွင်းသွားမည်ဖြစ်ပါသည်။ ငှားရမ်းရေး သဘောတူစာချုပ်အရ လိုက်နာရမည့်စည်းကမ်းချက်များကိုလည်း လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၃။ ကျွန်တော်များမြတ်မိဘကုမ္ပဏီလီမိတက်၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်း ( ၅၄၀၀ ) ဖြစ်၍ လုပ်ငန်းသုံးစက်ပစ္စည်းများနှင့် လုပ်ငန်းအတွက်လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှမှာယူတင်သွင်းမည်ဖြစ်ပါသည်။ Laundry Soap Bars ထုပ်လုပ်မှုတွင်အသုံးပြုမည့် ပြည်ပမှ မှာယူလိုသော စက်ပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ၏ တန်ဘိုးနှင့် ကုမ္ပဏီလည်ပတ်မှုအတွက် ထည့်ဝင်မည့် ငွေသားတို့အတွက် အသေးစိတ်စာရင်းကိုလည်း ပူးတွဲတင်ပြအပ်ပါသည်။

၄။ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းတွင် ရငွေနှင့်အသုံးစရိတ်စာရင်း၊ နိုင်ငံတော်သို့ ပေးသွင်းရမည့် အခွန်ငွေများကိုပါ ထည့်သွင်းတွက်ချက်၍ အသေးစိတ်ဖော်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ မြတ်မိဘာကုမ္ပဏီလီမိတက်၏ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုပ်လုပ်မှု ရင်းနှီးမြှုပ်နှံမှုလျှောက်ထား ခြင်းအားခွင့်ပြုပေးပါရန် နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်တို့ကို ခံစားခွင့်ပြုပါရန် လေးစားစွာဖြင့် အဆိုပြုတင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းလွင်)

(အုပ်ချုပ်မှုဒါရိုက်တာ)

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

စာအမှတ်၊ 001 / MM / MIC / 2015

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ............လ၊ ( ) ရက်

ကျွန်တော်များကုမ္ပဏီသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

| | | |
|---|---|---|
| (က) အမည် | - | ဦးဝင်းလွင် |
| (ခ) အဖအမည် | - | ဦးအောင် |
| (ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၂/ဗတထ (နိုင်) ၀၂၈၆၃၉ |
| (ဃ) နေရပ်လိပ်စာ | - | အမှတ်(၉၈)၊မြေညီထပ်၊လမ်း(၅၀)၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

| | | |
|---|---|---|
| (င) လူမျိုး/ဘာသာ | - | မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | - | မြတ်မိဘာကုမ္ပဏီလီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | - | ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်မှု လုပ်ငန်း။ |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | - | အမှတ် (၁၁၁)၊ အင်းစိန်လမ်း၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

(၂) ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

| | | |
|---|---|---|
| (က) အမည် | - | ဦးစိန်မင်း |
| (ခ) အဖအမည် | - | ဦးမြ |
| (ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၂/အလန (နိုင်) ၀၁၈၅၄၆ |
| (ဃ) နေရပ်လိပ်စာ | - | ၇၄၈၊မဟာဗန္ဓုလလမ်း၊ (၇)ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |
| (င) လူမျိုးဘာသာ | - | မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | - | First Top Company Limited |
| (ဆ) လုပ်ငန်းအမျိုးအစား | - | ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်မှု လုပ်ငန်း။ |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | - | အမှတ် (၅၉)၊ ၁၆-လမ်း၊ လမ်းမတော်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |

(၃) ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

| | | |
|---|---|---|
| (က) အမည် | - | ဦးအောင်မြတ် |
| (ခ) အဖအမည် | - | ဦးသိန်းမြင့် |
| (ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၂/ဥကတ (နိုင်) ၀၂၃၀၃၉ |
| (ဃ) နေရပ်လိပ်စာ | - | အမှတ်(၃၇)၊ဝေဇယန္တာလမ်း၊(၉) ရပ်ကွက် တောင်ဥက္ကလာပမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |
| (င) လူမျိုးဘာသာ | - | မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | - | Mother Trading Co.,Ltd. |
| (ဆ) လုပ်ငန်းအမျိုးအစား | - | ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်မှု လုပ်ငန်း။ |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | - | အမှတ်(၃၇)၊ဝေဇယန္တာလမ်း၊(၉) ရပ်ကွက် တောင်ဥက္ကလာပမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ |

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပေါ်ပါက သီးခြားစာရွက်တွင် ပူးတွဲဖော်ပြရန်)

(၄) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

| | | |
|---|---|---|
| (က) ကုန်ထုတ်လုပ်မှုလုပ်ငန်း | - | ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်မှု လုပ်ငန်း။ |
| (ခ) ဝန်ဆောင်မှုလုပ်ငန်း | ------------------------------------------------------ | |

(၅) လုပ်ကိုင်မည့်စီးပွါးရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

-------------------------------------------------------------------------------------

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

----------------------------------မရှိပါ------------------------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

----------------------------------မရှိပါ------------------------------------------

(၆) ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် -

(ခ) ဖက်စပ်/ အစုစပ်လုပ်ငန်း -

(ဂ) လီမိတက်ကုမ္ပဏီ - မြတ်မိဘကုမ္ပဏီလီမိတက်

(၇) ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

(၁) မြတ်မိဘကုမ္ပဏီလီမိတက် - (၃၄ %)

(၂) ဦးစိန်မင်း - (၃၃ %)

(၃) ဦးအောင်မြတ် - (၃၃ %)

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား

(၁) မြတ်မိဘကုမ္ပဏီလီမိတက် - (၃၄ %)

(၂) ဦးစိန်မင်း - (၃၃ %)

(၃) ဦးအောင်မြတ် - (၃၃ %)

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

---------------------------------------------------------------------------------

(၈) သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီ ဖြစ်ပါက-

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ်(၅၀၀,၀၀၀,၀၀၀/-)
(ကျပ်သန်းငါးရာတိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - ကျပ် ၁၀၀၀၀၀/ တန် အစု (၅၀၀၀)

(ဂ) အစုရှယ်ယာဝင်များ၏ ထည့်ဝင်မည့် - ကျပ်(၅၀၀,၀၀၀,၀၀၀/-)
(ကျပ်သန်းငါးရာတိတိ)

အစုရှယ်ယာပမာဏ - တစ်စုလျှင်ကျပ် ၁၀၀၀၀၀/-တန်အစု
ရှယ်ယာပေါင်း (၅၀၀၀)

**မှတ်ချက်။ အဆိုပြုလုပ်ငန်းအတွက် ကော်မရှင်၏ခွင့်ပြုချက်ရရှိပါက ခွင့်ပြုမတည်ငွေရင်းကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေနှင့်အညီတိုးမြှင့်ပြင်ဆင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။**

(၉) ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ (ယခုအဆိုပြုလွှာလုပ်ငန်းအတွက်)

| | US $ | ညီမျှသောကျပ် |
|---|---|---|
| စက်ပစ္စည်းကိရိယာများ - | 1,634,900 | 1,634,900,000 |
| လုပ်လည်ငွေရင်း - | 1,564,260 | 1,564,260,000 |
| Construction Raw Materials- | 501,340 | 501,340,000 |
| Civil works and others- | 609,000 | 609,000,000 |
| Piping installation costs- | 550,000 | 550,000,000 |
| Renovation Costs- | 500,000 | 500,000,000 |
| မြေငှားခ | 40,500 | 40,500,000 |
| **စုစုပေါင်း** | **5,400,000** | **5,400,000,000** |

(ခ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့်-

| | | US $ | ညီမျှသောကျပ် |
|---|---|---|---|
| (၁) | စက်ပစ္စည်းများ၊စက်ကိရိယာများ- | 1,634,900 | 1,634,900,000 |
| (၂) | Construction Materials- | 501,340 | 501,340,000 |
| | **စုစုပေါင်း** | **2,136,240** | **2,136,240,000** |

(ဂ) တည်ဆောက်မှုကာလ - (၁) နှစ်

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ-

(င) တည်ဆောက်မှု စတင်မည့်အချိန် - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှခွင့်ပြုမိန့်ရရှိပြီး (၆) လအတွင်း

(စ) ရင်းနှီးမြှုပ်နှံမှုကာလ - နှစ် (၅၀)၊ သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်

(၁၀) ဆောင်ရွက်မည့် စီးပွါးရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့်၊ Laundry Soap Bars ထုတ်လုပ်မှု လုပ်ငန်း။

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ အမှတ် (၂) ရပ်ကွက်၊ ဆပ်ပြာမှုန့်စက်ရုံ (ရန်ကုန်)။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ကြေးချွတ်မှုန့် များအားလက်ရှိစက်များကိုပြန်လည်ပြုပြင် ပြီးထုတ်လုပ်မည်ဖြစ်ပါသည်။ Laundry Soap Bars အား Laundry Soap Bar

ရေးဘဏ်၊ ဘဏ်ခွဲ(၃) ရန်ကုန်မြို့ (သို့မဟုတ်)မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်) တွင် အပ်နှံထားရှိ၍ထားရှိမှုမှတ်တမ်းအားအမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင့်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း)တွင် သိမ်းဆည်းထားရှိရမည်။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါစည်းကမ်း ချက်တစ်ရပ်ရပ်ကိုဖောက်ဖျက်ပါက "အငှားချထားသူ"အနေဖြင့် အဆိုပါလုပ်ငန်းဆောင်ရွက်မှုအာမခံအား ဘဏ္ဍာငွေအဖြစ်သိမ်းဆည်းနိုင်သည်။

၆။ ဤ စတုတ္ထအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်သည် ၂၀၁၅ ခုနှစ် လ ရက် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၇။ ဤစာချုပ်ပါ ပြင်ဆင်ပြောင်းလဲသည့် စည်းကမ်းချက်မှတစ်ပါးမူလစာချုပ်ပါ ကျန်စည်းကမ်း ချက်များမှာ ပြောင်းလဲမှု မရှိဘဲ ဆက်လက်၍ အကျိုး သက်ရောက်မှု ရှိစေရမည်။

၈။ ဤစတုတ္ထအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၉။ ဤစတုတ္ထအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား ၂၀၁၅ခုနှစ် လ( ) ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါ အသိသက်သေများရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| ဦးခင်မောင်တင့်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း<br>(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း) | ဦးဝင်းလွင်<br>အုပ်ချုပ်မှုဒါရိုက်တာ၊<br>မြတ်မိဘကုမ္ပဏီလီမိတက် |

ကန်ထရိုက်

၆

အသိသက်သေ

ဒေါက်တာစိုးနိုင်
အထွေထွေမန်နေဂျာ
နည်းပညာဖွံ့ဖြိုးရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ဦးဝင်းမောင်
ဒါရိုက်တာ
၉/မခန(နိုင်)၁၁၉၇၄၇
အမှတ်(၉၈)၊လမ်း (၅၀)
ပုဇွန်တောင်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

ဦးသန်းထွန်း
အထွေထွေမန်နေဂျာ
အရည်အသွေးထိန်းသိမ်းရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ဒေါ်ဥမ္မာမြင့်
ဒါရိုက်တာ
၁၂/ပဇတ(နိုင်)၀၀၇၉၀၉
အမှတ်(၉၈)၊လမ်း(၅၀)
ပုဇွန်တောင်မြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ဒေါ်ခင်ခင်ချို
အထွေထွေမန်နေဂျာ
ဘဏ္ဍာရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ကန်ထရိုက်

## ဆပ်ပြာမှုန့်စက်ရုံလက်ရှိ

(၁) အဆောက်အဦစာရင်း

(၂) စက်ပစ္စည်းကိရိယာများစာရင်း

(၃) ဓာတ်ခွဲခန်းသုံးပစ္စည်း

(၄) ရုံးသုံးပရိဘောဂစာရင်း

## အဆောက်အဦစာရင်း

| စဉ် | အဆောက်အဦအမည် | အတိုင်းအတာ (ပေ) | | | မှတ်ချက် |
|---|---|---|---|---|---|
| | | အလျား | အနံ | အမြင့် | |
| 1 | Power Building | 60 | 112 | 20 | |
| 2 | Store Building | 65 | 105 | 25 | |
| 3 | Work Shop ($H_2O_2$ သိုလှောင်ရုံ) | - | - | - | |
| 4 | Battery Plant with Red Lead Plant Building | 130 | 68 | 16 | |
| 5 | Battery Plant (E.Bike Battery) | 150 | 103 | 15 | |
| 6 | Acid Plant Building | 36 | 106 | 12 | |
| 7 | Acid Plant Building | | | | |
| 8 | Hazardaw Godown | - | - | - | |
| 9 | Electric Motor Plant | 126 | 108 | 15 | |
| 10 | Separator Plant Building | 36 | 60 | 16 | |
| 11 | Detergent Building | 80 | 105 | 90 | |
| 12 | Worker Quarters | - | - | - | |
| 13 | EPC Station | 28 | 30 | 15 | |
| 14 | Time Office (လုံခြုံရေး) & Win Thuzar | 38 | 17 | 15 | |
| 15 | Factory Compound Fence (ခြံစည်းရိုး) | - | - | - | |
| 16 | Finished Goods Godown | - | - | - | |
| 17 | Raw Material Godown | 65 | 75 | 25 | |
| 18 | Water Tank Concrete and Pump (ရေစင်) | - | - | - | |
| 19 | Office Canteen and Lab | 20 | 40 | 15 | |
| 20 | Battery Semi Finished Godown | 102 | 50 | 12 | |
| 21 | Sodium Sulphate Godown | 36 | 16 | 12 | |
| 22 | Gas Line and Station | 15 | 10 | 12 | |

ဆိုဒီယမ်ဆာလ်ဖိတ်အဆောက်အဦ

| စဉ် | အဆောက်အဦအမည် | အတိုင်းအတာ (ပေ) | | | မှတ်ချက် |
|---|---|---|---|---|---|
| | | အလျား | အနံ | အမြင့် | |
| 1 | ဂိုဒေါင် (ယာယီတဲ) | 80 | 30 | 15 | |
| 2 | ဆာလ်ဖိတ်သန့်စင်ရေး (ရေစစ်ထုတ်ကန်) | 33 | 33 | 1 | |
| 3 | ဆာလ်ဖိတ်တိုးချဲ့ထုတ်လုပ်ရေးအဆောက်အဦ | 40 | 60 | 20 | |
| 4 | ဆာလ်ဖိတ်ကုန်ကြမ်းသိုလှောင်ရုံ | 30 | 50 | 15 | |

ဆိုဒီယမ်ကာဗွန်နိတ်အဆောက်အဦ

| စဉ် | အဆောက်အဦအမည် | အတိုင်းအတာ (ပေ) | | | မှတ်ချက် |
|---|---|---|---|---|---|
| | | အလျား | အနံ | အမြင့် | |
| 1 | ကာဗွန်နိတ်ထုတ်လုပ်ရေးအဆောက်အဦ | 30 | 30 | 10 | |
| 2 | ဆိုဒီယမ်ကာဗွန်နိတ်ရည်ထည့်သည့်အုတ်ရေကန် | 8 | 8 | 4 | |
| 3 | ဆိုဒီယမ်ကာဗွန်နိတ်အခြောက်ခံမီးသင်းဖို | 21 | 1 | 10 | |
| 4 | ဆိုဒီယမ်ကာဗွန်နိတ်အရည်နေလှန်းကန် | 5 | 5 | 5 | |
| 5 | ဆိုဒီယမ်ကာဗွန်နိတကုန်ကြမ်းသိုလှောင်ရုံ | 30 | 30 | 15 | |
| 6 | ဆိုဒီယမ်ကာဗွန်နိတ်ကုန်ချောသိုလှောင်ရုံ | 55 | 20 | 15 | |
| 7 | ဆိုဒီယမ်ကာဗွန်နိတ်ကုန်ချောသိုလှောင်ရုံ | 30 | 15 | 15 | |
| 8 | အဝီစိတွင်းနှင့်ကွန်ပရက်ဆာ(၁)လုံး | - | - | - | |

စက်ပစ္စည်းကိရိယာများ

| စဉ် | အကြောင်းအရာ | စာရင်း တင်သည့်နှစ် | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| 1 | Hydrochloric Acid Plant | 1957 | 1 No | |
| 2 | Battery Plant | 1975 | 1 No | |
| 3 | Electric Power Plant | 1955-1977 | 1 No | |
| 4 | Workshop and Tools | 1955 | 1 No | |
| 5 | Handing Equipment | 1961 | 1 No | |
| 6 | Electric Power Plant | 1961 | 1 No | |
| 7 | Telescoper | 1963 | 1 No | |
| 8 | Stainless Steel Tanks & Agitator Unit | 1963 | 1 No | |
| 9 | Bottle Caping Machine | 1963 | 1 No | |
| 10 | Pillow Bag Packing Machine | 1978 | 1 No | |
| 11 | Acid Storage Tank (375 Ton Cap) | 1988 | 1 No | |
| 12 | Homogenizing Pump (1) Set | 1997 | 1 No | |
| 13 | High Pressure Pump (1) Set | 1997 | 1 No | |
| 14 | Battery Plant (E Bike Battery Plant) | 2006 | 1 No | |
| 15 | Detergent Plant | 1959-2011 | 1 No | |
| 16 | Water Pump with Motor (Cap-400gal/min) | 1966-2008 | 1 No | |
| 17 | Detergent Sealing Machine Sewing Machine | 1966-2008 | 1 No | |
| 18 | Boiler Water Pump | 2002 | 1 No | |
| 19 | Detergent Filling Machine & Conveyor | 2004 | 1 No | |
| 20 | Transformer & Station | 2006-2008 | 1 No | |
| 21 | Diesel Generator 125 KVA | 2006 | 1 No | |
| 22 | $4m_4$ Battery Container Mould | 2006 | 1 No | |
| 23 | Weighting Machine | 2006 | 1 No | |
| 24 | Air Con $A_3$ 12 Fan (2) Sets | 2008 | 1 No | |
| 25 | Fitss RR 18 (Korea) | 2008 | 1 No | |
| 26 | Ball Mill (SP) | 2009 | 1 No | |
| 27 | Spare Part for Crusher | 2009 | 1 No | |
| 28 | Oxygen (4 Nos) Acetylene (2 Nos) | 2010 | 1 No | |
| 29 | Semi Auto Weighing Filling Machine | 2011 | 1 No | |

ဆိုဒီယမ်ဆာလ်ဖိတ်စက်ပစ္စည်းကိရိယာများ

| စဉ် | အကြောင်းအရာ | စာရင်းတင်သည့်နှစ် | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| 1 | Centrifuge | 1983-1984 | 1 No | |
| 2 | Grinder | 1983-1984 | 1 No | |
| 3 | Diesel Generator | 1983-1984 | 1 No | |
| 4 | Nater Pump | 1989-1990 | 1 No | |
| 5 | Air Compressor | 1989-1990 | 1 No | |
| 6 | Reerigeation Unit | 1989-1990 | 1 No | |
| 7 | Evaporator | 1989-1990 | 1 No | |
| 8 | Crystallizer | 1989-1990 | 1 No | |
| 9 | Glovers Salt Production Dry | 2002-2003 | 1 No | |
| 10 | Pilot Plant | 2008-2009 | 1 No | |

ဆိုဒီယမ်ကာဗွန်နိတ်စက်ပစ္စည်းကိရိယာများ

| စဉ် | အကြောင်းအရာ | စာရင်းတင်သည့်နှစ် | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| 1 | Tube Well for with Compressor<br>ဆိုဒီယမ်ကာဗွန်နိတ်စခန်းမြေအောက်အဝီစိတွင်းတူးဖော်ခြင်း | 2003-2004 | | |
| 2 | လျှပ်စစ်ထုတ်လေဒဟတ်စက် | 2003-2004 | | |

## ဓာတ်ခွဲခန်းသုံးပစ္စည်းများ

| စဉ် | အကြောင်းအရာ | စာရင်း တင်သည့်နှစ် | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| 1 | Lab Scale | | 1 No | |
| 2 | Mechanical Balance | | 1 No | |
| 3 | Electric Oven | | 1 No | |
| 4 | Desiccators | | 1 No | |
| 5 | ဓာတ်ခွဲခန်းသုံးပစ္စည်း (၁၈) မျိုး | | 1 Lot | |

## ရုံးသုံးပရိဘောဂများ

| စဉ် | အကြောင်းအရာ | စာရင်းတင်သည့်နှစ် | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| 1 | မြန်မာလက်နှိပ်စက် (၂၄") | | ၂ လုံး | |
| 2 | မြန်မာလက်နှိပ်စက် (၁၈") | | ၁ လုံး | |
| 3 | အင်္ဂလိပ်လက်နှိပ်စက် (၁၈") | | ၁ လုံး | |
| 4 | လက်လှည့်စာကူးစက် | | ၁ လုံး | |
| 5 | တံဆိပ်ခေါင်းရိုက်စက် | | ၁ လုံး | |
| 6 | Electric Calculator | | ၄ လုံး | |
| 7 | ရေခဲသေတ္တာ | | ၃ လုံး | |
| 8 | အစည်းအဝေးစားပွဲ | | ၂ လုံး | |
| 9 | သစ်သားဘီဒို | | ၇ လုံး | |
| 10 | မှန်ဘီဒို | | ၃ လုံး | |
| 11 | သံဘီဒို | | ၇ လုံး | |
| 12 | လက်တန်းပါကုလားထိုင် | | ၁၂ လုံး | |
| 13 | လက်တန်းမဲ့ကုလားထိုင် | | ၁၅ လုံး | |
| 14 | စားပွဲကြီးအိုအက်စ် | | ၁ လုံး | |
| 15 | စာရေးစားပွဲအိုအက်စ် | | ၃ လုံး | |
| 16 | တယ်လီဖုန်း | | ၂ လုံး | |
| 17 | Copier (Sharp) | | ၂ လုံး | |
| 18 | Computer | | ၂ လုံး | |
| 19 | Printer (Canon) | | ၁ လုံး | |

## စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း

## ဆပ်ပြာမှုန့်စက်ရုံရှိ အဆောက်အဦများ


















စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း

ဆပ်ပြာမှုန့်စက်ရုံရှိ စက်နှင့်စက်ပစ္စည်းများ



ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
## (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

နှင့်

## မြတ်မိဘ ကုမ္ပဏီလီမိတက်

တို့

ချုပ်ဆိုသော

## ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်) အား
## ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ်
## ငှားရမ်းခတိုးမြှင့်သည့်တတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေ လ ( ၂၉ )ရက်

ကန့်သတ်

repair contractsCLO\repair contracts.soapCLO(Final)Lease Rate

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

## နှင့်

## မြတ်မိဘ ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော

## ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်) အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

## ငှားရမ်းခတိုးမြှင့်သည့်တတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ် မေ လ(၂၉)ရက်နေ့တွင် နေပြည်တော်ရှိ ဦးခင်မောင်တင့်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း)( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံ သူများနှင့် ဥပဒေ အရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်နှင့် ဦးဝင်းလွင် အမျိုးသားမှတ်ပုံတင်အမှတ်၊ ၁၂/ဗတထ(နိုင်) ၀၂၈၆၃၉ ကိုယ်စားပြုသော မြတ်မိဘကုမ္ပဏီလီမိတက် အမှတ်(၁၁၁)၊ အင်းစိန်လမ်းမကြီး၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး (နောင်တွင်အငှားချထားခြင်းခံရ သူဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူများ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေ အရ လွှဲအပ်ခြင်းခံရသူ များ ပါဝင်သည်။ ) က အခြားတစ်ဖက်တို့သည် -

(က) ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ အမှတ်(၂)ရပ်ကွက်ရှိ ဆပ်ပြာမှုန့်စက်ရုံ (ရန်ကုန်) ၏မြေ(၁၃.၂၃)ဧကနှင့်စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပရိဘောဂ များ၊ဓါတ်ခွဲခန်းသုံးပစ္စည်းများကို (၅)နှစ်သက်တမ်းငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ချေးချွတ်မှုန့်များထုတ်လုပ်ခြင်း ၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်းများ ဆောင်ရွက်ရန် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဥ် ( ၂၂/၂၀၁၁ )မှခွင့်ပြုခဲ့ပါသဖြင့် သဘောတူစာချုပ်ကို ၂၀၁၁ ခုနှစ် စက်တင်ဘာလ(၂၀)ရက်နေ့တွင် နှစ်ဦးသဘောတူ စာချုပ် (နောင်တွင်မူလစာချုပ် ဟုခေါ်ဆိုမည်ဖြစ်ပါသည်။) ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၁)မှ (၃၀.၉.၂၀၂၁)ထိ(၁၀)နှစ်သို့ တိုးမြှင့်ပြင်ဆင်ခြင်းကို(၈.၆.၂၀၁၂)ရက်နေ့တွင် ကျင်းပခဲ့ သည့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး အမှတ်စဥ်(၆/၂၀၁၂-၂၀၁၃)ဖြင့် ခွင့်ပြုခဲ့ပြီး၊ ၂၀၁၂ခုနှစ်ဇွန်လ(၁၄)ရက် နေ့တွင်နှစ်ဦးသဘောတူစာချုပ်(နောင်တွင်ပထမအကြိမ်သက်တမ်းတိုးမြှင့်ပြင်ဆင် စာချုပ် ဟုခေါ်ဆိုမည်ဖြစ်ပါသည်။) ချုပ်ဆိုခဲ့ပါသည်။

(ဂ) ယင်းသို့လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၁)မှ (၃၀.၉.၂၀၃၁)ထိ (၂၀)နှစ်နှင့် သက်တမ်းတိုးမြှင့်၍ တစ်ကြိမ်လျှင်(၅) နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းပြီး သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ပြင်ဆင်ချက် သဘောတူ

စာချုပ်ကို ၂၀၁၄ ခုနှစ် ဇူလိုင်လ (၁၆) ရက်နေ့တွင်နှစ်ဦးသဘောတူ စာချုပ်(နောင်တွင် ဒုတိယအကြိမ်သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့်ပြင်ဆင်ချက်သဘောတူစာချုပ်ဟုခေါ်ဆို မည်ဖြစ်ပါသည်။)ထပ်မံချုပ်ဆိုခဲ့ပါသည်။

(ဃ) အဆိုပါ စာချုပ်ပြင်ဆင်ခြင်းနှင့် ပတ်သက်၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း) မှ သဘောတူခဲ့ပြီး စက်မှုဝန်ကြီးဌာန၏ (၂၉.၁၁.၂၀၁၃)ရက်နေ့တွင် ကျင်းပခဲ့သည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး အမှတ်စဉ် (၁၈/၂၀၁၃-၂၀၁၄)မှ ခွင့်ပြုခဲ့ပြီး ဖြစ် ပါသည်။

(င) သက်တမ်းတိုးမြှင့်ခြင်းနှင့်ပတ်သက်၍ အစိုးရအဖွဲ့မှ ခွင့်ပြုသော မူလငှားရမ်းသက်တမ်း (၅)နှစ်အပါအဝင် (၂၀)နှစ်+(၅)နှစ်+(၅)နှစ် ဖြင့် ငှားရမ်းခွင့်ကို(၆-၂-၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၄)မှ သဘောတူ ခွင့်ပြုပြီး ဖြစ်ပါသည်။

(စ) စက်ရုံတွင် ဆပ်ပြာရည်ထုတ်လုပ်ခြင်း နှင့် ကုမ္ပဏီလုပ်ငန်း တိုးချဲ့ရန်အတွက် Steel Structure Building(၂)လုံး တည်ဆောက်ပြီး၊ မူလစာချုပ်၏ တစ်နှစ်ငှားရမ်းခနှုန်းထားကို ကျပ်(၃၉.၆၀)သန်းမှ ကျပ်(၄၀.၅၀)သန်းသို့ တိုးမြှင့်ငှားရမ်းခြင်းအား (၂၄.၂.၂၀၁၅) နေ့တွင်ကျင်းပပြုလုပ်ခဲ့သောစက်မှုဝန်ကြီးဌာန၊ အဆောက်အဦကော်မတီ အစည်းအဝေး အမှတ်စဉ် (၃၁/၂၀၁၄-၂၀၁၅)မှ သဘောတူပါသဖြင့် ဤတတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်း ဖြစ်ပါသည်။

(ဆ) စက်မှုဝန်ကြီးဌာန၏ ၂၆.၃.၂၀၁၅ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ်(၁၃၄/၂၀၁၄-၂၀၁၅)အရ အထည်အလိပ်လုပ်ငန်းနှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း တို့ကို ပူးပေါင်း၍ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း အဖြစ်ပြင်ဆင်ဖွဲ့စည်းခဲ့ပါသည်။

သို့ပါ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်ကိုပြင်ဆင်သည့် ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို အောက်ပါ သဘောတူညီချက်များနှင့် အညီချုပ်ဆိုရခြင်း ဖြစ်ပါသည် -

၁။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထားခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)အားပယ်ဖျက်၍ အောက်ပါ စာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းခနှုန်းထား**

၉။ ငှားရမ်းခနှုန်းထားမှာအပိုဒ်(၃)ပါ စက်ရုံ၊မြေ၊အဆောက်အဦ၊ စက်ပစ္စည်းကရိယာများ၊ ဓာတ်ခွဲခန်းသုံးပစ္စည်း၊ရုံးသုံးပရိဘောဂများအပါအဝင် တစ်နှစ်လျှင် ကျပ်(၄၀.၅၀၀)သန်း (ကျပ်လေးဆယ်သန်းနှင့်ငါးသိန်းတိတိ) ဖြစ်ပါသည်။ငှားရမ်းခနှုန်းထားသည် ဤတတိယအကြိမ်ပြင်ဆင်ချက် သဘောတူစာချုပ် ချုပ်ဆိုသည့် နေ့မှစ၍စတင်အကျိုးသက်ရောက်စေရမည်။

၂။ မူလစာချုပ်ပါ အာမခံထားရှိခြင်းခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၇)အားပယ်ဖျက်၍ အောက်ပါစာပိုဒ်ဖြင့်အစားထိုးပြင်ဆင်ရမည်-

**အာမခံထားရှိခြင်း**

၁၇။ "အငှားချထားခြင်းခံရသူ"သည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့် ညီမျှသော တန်ဘိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ(အပ်ငွေ)အဖြစ် အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)၏မြန်မာ့စီးပွားရေးဘဏ်၊ ဘဏ်ခွဲ(၃) ရန်ကုန်မြို့ (သို့မဟုတ်) မြန်မာ့စီးပွားရေးဘဏ် (နေပြည်တော်)ရှိငွေထုတ်စာရင်း အမှတ်၊ SEE A/C သို့ ပေးသွင်းအပ်နှံ ထားရှိရမည်။

၃။ ဤတတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်သည်၂၀၁၅ ခုနှစ် မေ လ၂၉ရက် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၄။ ဤစာချုပ်ပါပြင်ဆင်ပြောင်းလဲသည့် စည်းကမ်းချက်များမှတစ်ပါး မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှု မရှိဘဲ ဆက်လက်၍ အကျိုး သက်ရောက်မှု ရှိစေရမည်။

၅။ ဤတတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်ပါ နောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၆။ ဤတတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၇။ ဤတတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်အား၂၀၁၅ခုနှစ် မေ လ(၂၉) ရက်နေ့တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါ အသိသက်သေများရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်-

**အငှားချထားသူ(ကိုယ်စား)**

ဦးခင်မောင်တင့်
ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

**အငှားချထားခြင်းခံရသူ(ကိုယ်စား)**

ဦးဝင်းလွင်
အုပ်ချုပ်မှုဒါရိုက်တာ၊
မြတ်မိဘကုမ္ပဏီလီမိတက်

အသိသက်သေ

ဒေါက်တာစိုးနိုင်
အထွေထွေမန်နေဂျာ
နည်းပညာဖွံ့ဖြိုးရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယာဉ်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ဦးဝင်းမောင်
ဒါရိုက်တာ
၉/မခန(နိုင်)၁၁၉၇၄၇
အမှတ်(၉၈)၊လမ်း(၅၀)
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

ဦးသန်းထွန်း
အထွေထွေမန်နေဂျာ
အရည်အသွေးထိန်းသိမ်းရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယာဉ်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ဒေါ်ဥမ္မာမြင့်
ဒါရိုက်တာ
၁၂/ပဇတ(နိုင်)၀၀၇၉၀၉
အမှတ်(၉၈)၊လမ်း(၅၀)
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

ဒေါ်ခင်ခင်ချို
အထွေထွေမန်နေဂျာ
ဘဏ္ဍာရေးဌာန
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
(ယာဉ်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

မြတ်မိဘ ကုမ္ပဏီလီမိတက်

တို့

ချုပ်ဆိုသော

ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်) အား

ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ်

သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ (၁၆) ရက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
121811
၅၀၀၀၀၀ကျပ် K 500000

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
121812
၅၀၀၀၀၀ကျပ် K 500000

## စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

## နှင့်

## မြတ်မိဘ ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော

## ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်) အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

## ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဇူလိုင် လ (၁၆)ရက်နေ့တွင် နေပြည်တော်ရှိ ဦးရည်မွန် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံ သူများနှင့် ဥပဒေ အရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်နှင့် ဦး၁င်းလွင် အမျိုးသားမှတ်ပုံတင်အမှတ်၊ ၁၂/ဗတထ(နိုင်) ၀၂၈၆၃၉ ကိုယ်စားပြုသော မြတ်မိဘကုမ္ပဏီလီမိတက် အမှတ်(၁၁၁)၊ အင်းစိန်လမ်းမကြီး၊လှိုင်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး (နောင်တွင် အငှားချထားခြင်းခံရသူ ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌၎င်းအားဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များ ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။ ) က အခြားတစ်ဖက် တို့သည် အောက်ပါစည်းကမ်းချက်များကို သက်မှတ်၍ နှစ်ဦး သဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ အမှတ်(၂)ရပ်ကွက်ရှိ ဆပ်ပြာမှုန့်စက်ရုံ (ရန်ကုန်)၏မြေ(၁၃.၂၃)ဧကနှင့်စက်ရုံ၏အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂများ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများကို (၁၀)နှစ်သက်တမ်း ငှားရမ်း၍ ဆပ်ပြာမှုန့်၊ဆပ်ပြာရည်၊ ချေးချွတ်မှုန့်များ ထုတ်လုပ်ခြင်း ၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် သဘောတူစာချုပ်ကို ၂၀၁၁ခုနှစ် စက်တင်ဘာလ (၂၀)ရက် နေ့တွင်နှစ်ဦး သဘောတူစာချုပ် (နောင်တွင် မူလစာချုပ်ဟုခေါ်ဆိုမည် ဖြစ်ပါသည်။) ချုပ်ဆို၍လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့လုပ်ငန်းဆောင်ရွက်ရာတွင် မူလစာချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၁)မှ (၃၀.၉.၂၀၃၁)ထိ (၂၀)နှစ်နှင့် သက်တမ်းတိုးမြှင့်လိုပါက တစ်ကြိမ်လျှင်(၅) နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းလိုခြင်းကြောင့် ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆိုခြင်း ဖြစ်ပါသည်။

(ဂ) အဆိုပါစာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ လုပ်ငန်းမှသဘောတူခဲ့ပြီးစက်မှုဝန်ကြီးဌာန (၂၉.၁၁.၂၀၁၃)ရက်နေ့ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး အမှတ်စဉ် (၁၈/၂၀၁၃-၂၀၁၄) ဖြင့် ခွင့်ပြုပြီး ဖြစ်ပါသည်။

ကန့်သတ်







(ဃ) သက်တမ်းတိုးမြှင့်ခြင်းနှင့်ပတ်သက်၍အစိုးရအဖွဲ့မှ ခွင့်ပြုသောမူလငှားရမ်းသက်တမ်း (၅)နှစ်အပါအဝင် (၂၀)နှစ်+(၅)နှစ်+(၅)နှစ် ဖြင့် ငှားရမ်းခွင့်ကို(၆-၂-၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၄)မှ သဘောတူ ခွင့်ပြုပြီး ဖြစ်ပါသည်။

(င) (၉.၄.၂၀၁၄)နေ့တွင် ကျင်းပပြုလုပ်ခဲ့သော စက်မှုဝန်ကြီးဌာန ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး အမှတ်စဉ် (၁/၂၀၁၄-၂၀၁၅)၏ ဆုံးဖြတ်ချက်အရ "ကျော်သာကုမ္ပဏီလီမိတက်"အား "မြတ်မိဘကုမ္ပဏီလီမိတက်" အဖြစ် ပြောင်းလဲသုံးစွဲခွင့်ပြုခဲ့ပါသည်။

သို့ပါ၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်ကို ပြင်ဆင်သည့် ဤပြင်ဆင်ချက် သဘောတူစာချုပ်ကို အောက်ပါသဘောတူညီချက်များနှင့်အညီ ချုပ်ဆိုရခြင်းဖြစ်ပါသည် -

၁။ မူလစာချုပ် ရည်ရွယ်ချက်ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁)အား ပယ်ဖျက်၍ အောက်ပါ စာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ရည်ရွယ်ချက်**

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး လှိုင်မြို့နယ် အမှတ်(၂)ရပ်ကွက်ရှိ ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၏ မြေ(၁၃.၂၃)ဧကနှင့် စက်ရုံ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂများ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်း၍ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်၍ ဤစက်ရုံငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ် ပါသည်။

၂။ မူလစာချုပ်၏ ငှားရမ်းမည့်အချိန်ကာလ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၄)အားပယ်ဖျက်၍ အပိုဒ်(၄)၊ အပိုဒ်(၅)တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလမှာ (၁.၁၀.၂၀၁၁)ရက်နေ့မှစ၍ (၂၀+၅+၅)နှစ် ဖြစ်ပါသည်။

၅။ ငှားရမ်း သက်တမ်း ထပ်မံတိုးလိုပါက သက်တမ်းတစ်ကြိမ်လျှင် (၅)နှစ်နှင့် သက်တမ်းနှစ်ကြိမ် တိုးနိုင်သည်။ သက်တမ်းတိုးဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေးသို့ အတည်ပြုချက်တင်ပြဆောင်ရွက်ရမည်ဖြစ်ပါသည်။

၃။ မူလစာချုပ်၏ စာချုပ်သက်တမ်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၅)အားပယ်ဖျက်၍ အပိုဒ်(၆)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်သက်တမ်း**

၆။ စာချုပ်သက်တမ်းမှာ (၁.၁၀.၂၀၁၁) ရက်နေ့မှစ၍ (၃၀.၉.၂၀၃၁)ရက်နေ့အထိ (၂၀)နှစ် ဖြစ်ပါသည်။ စာချုပ်သက်တမ်းတိုးလိုပါက သက်တမ်းတစ်ကြိမ်လျှင် (၅)နှစ်နှင့် သက်တမ်းနှစ်ကြိမ် တိုးနိုင်သည်။

<u>ကန့်သတ်</u>

၄။ မူလစာချုပ်၏ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)အား ပယ်ဖျက်၍ အပိုဒ်(၇)အဖြစ်အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်း**

၇။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| စဉ် | လစာနှုန်း | လူဦးရေ |
|---|---|---|
| (က) | ၁၈၀၀၀၀ိ-၂၀၀၀ိ-၁၉၀၀၀၀ိ | - ဦး |
| (ခ) | ၁၆၀၀၀၀ိ-၂၀၀၀ိ-၁၇၀၀၀၀ိ | ၂ ဦး |
| (ဂ) | ၁၄၀၀၀၀ိ-၂၀၀၀ိ-၁၅၀၀၀၀ိ | ၆ ဦး |
| (ဃ) | ၁၀၅၀၀၀ိ-၁၀၀၀ိ-၁၁၀၀၀၀ိ | ၇ ဦး |
| (င) | ၉၉၀၀၀ိ-၁၀၀၀ိ-၁၀၄၀၀၀ိ | ၂၂ ဦး |
| (စ) | ၉၃၀၀၀ိ-၁၀၀၀ိ-၉၈၀၀၀ိ | ၂၄ ဦး |
| (ဆ) | ၈၇၀၀၀ိ-၁၀၀၀ိ-၉၂၀၀၀ိ | ၃၃ ဦး |
| (ဇ) | ၈၁၀၀၀ိ-၁၀၀၀ိ-၈၆၀၀၀ိ | ၁ ဦး |
| (ဈ) | ၇၅၀၀၀ိ-၁၀၀၀ိ-၈၀၀၀၀ိ | ၂ ဦး |
| (ည) | နေ့စား | ၃ ဦး |
| | **စုစုပေါင်း** | ၁၀၀ ဦး |

၅။ မူလစာချုပ်ပါ လွှဲပြောင်းပေးမည့် ဝန်ထမ်းများ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)နှင့် ၎င်း၏အပိုဒ်ခွဲ(က)နှင့်(ည)အားပယ်ဖျက်၍ အပိုဒ်(၈)နှင့်အပိုဒ်ခွဲ(က)(ည)အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၈။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့်ပတ်သက်၍ "အငှားချထားခြင်းခံရသူ"မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၈(က)။ စက်ရုံရှိ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို နိုင်ငံတော်က သတ်မှတ်ထားသည့် လ၏ နောက်ဆုံးရက် (သို့မဟုတ်)ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။

၈(ည)။ စက်ရုံဝန်ထမ်းအား အငှားချထားသည့်စက်ရုံနှင့် ပတ်သက်သည့်လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။ အကယ်၍ ဤစက်ရုံ၏ ပြင်ပလုပ်ငန်းနေရာများသို့ ပြောင်းရွှေ့ခြင်းကို "အငှားချထားသူ"၏ သဘောတူညီမှုဖြင့်ဆောင်ရွက်ရမည်။

၆။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထားခေါင်းစဉ်အောက်ရှိ အပိုဒ်(၈)အား အပိုဒ်(၉)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၇။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)အား အပိုဒ်(၁၀)အဖြစ်ပြင်ဆင်ပြီး အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၁၀။ နောင်လာမည့်နှစ်များတွင် ငှားရမ်းခအား (၂)နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်၍ ငှားရမ်းခတန်ဖိုး၏(၂%) မှ (၅%)အတွင်း နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ မူလစာချုပ်၏ ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၀)အပိုဒ်(၁၁)တို့အား ပယ်ဖျက်၍ ငှားရမ်းခပေးသွင်းခြင်းခေါင်းစဉ် အပိုဒ်(၁၁)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းခပေးသွင်းခြင်း**

၁၁။ ယခုစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကို (၃)လလျှင်တစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်းပေးသွင်းရမည်။

၉။ မူလစာချုပ်တွင် နောက်ကျကြေးပေးသွင်းခြင်း ခေါင်းစဉ်အား အပိုဒ်(၁၂)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

**နောက်ကျကြေးပေးသွင်းခြင်း**

၁၂။ အငှားချထားခြင်းခံရသူသည် ယခုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည့် (၃)လအတွက် ငှားရမ်းခအား ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်လနောက်ကျတိုင်း (၃)လအတွက် ပေးသွင်းရမည့် ငွေ၏ (၀.၅%) (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ် သတ်မှတ်၍ နောက်ကျသည့်ရက်များအတွက် တွက်ချက်ပေးဆောင်ရမည်။

၁၀။ မူလစာချုပ်၏ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၂) နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၃)နှင့် အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၃။ အငှားချထားခြင်းခံရသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးကိရိယာများ၊ အခြားပရိဘောဂများ ၊ မော်တော်ယာဥ်များနှင့်ပတ်သက်၍ နောက်ဆက်တွဲပါအတိုင်း အသုံးပြုနိုင်သည်။

(ခ) အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်ပစ္စည်းကိရိယာများ ရုံးသုံးပစ္စည်းများ နှင့် အခြားပရိဘောဂများရှိပါက အငှားချထားသူသို့ညှိနှိုင်း၍ စနစ်တကျ လွှဲပြောင်းပေးနိုင်သည်။

(ဂ) "အငှားချထားခြင်းခံရသူ" ၏ လုပ်ငန်းနှင့်မကိုက်ညီသော မူလ အဆောက်အဦကို ပြုပြင်ရန် (သို့)ဖြိုဖျက်ရန်အလို့ငှာ "အငှားချထားသူ"၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက် နိုင်သည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည်လုပ်ငန်းတိုးချဲ့ခြင်း၊ပြင်ဆင်ခြင်း၊ မွမ်းမံခြင်း၊ အဆောက်အဦ ဆောက်လုပ်ခြင်းများကို "အငှားချထားသူ" ၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(င) စက်ရုံရှိ စာချုပ်ပါငှားရမ်းသည့် စက်ပစ္စည်း၊ အဆောက် အဦ များ နှင့် ပတ်သက်၍ ပြုပြင် ထိန်းသိမ်းမှုများကို "**အငှားချထားခြင်းခံရသူ**" မှ တာဝန်ယူဆောင် ရွက်ရမည်။

(စ) "အငှားချထားခြင်းခံရသူ"သည်ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်း ချက်နှင့်အညီ သတ်မှတ်ထားသည့် အချိန်အတွင်း "အငှားချထားသူ"ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် အငှားချထားသူအား စနစ်တကျ ထိန်းသိမ်း ဆောင်ရွက် ခွင့်ပြုရမည်ဖြစ်ပြီး လိုအပ်သည် များ ကူညီဆောင်ရွက်ပေးရမည်။

(ဇ) အငှားချထားသည့်ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဥ်းများနှင့် အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း ၊ ပေါင်နှံခြင်း ၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့်လွှဲပြောင်းပေးခြင်း စသည်တို့ လုံးဝမပြုလုပ်ရ။

(ည) "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့်ကာလအတွင်း အငှားချထားသူမှ လည်းကောင်း၊အငှားချထားသူကနည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးထားသော ကိုယ်စားလှယ်များကိုလည်းကောင်း လိုအပ်ပါက ဝင်ရောက်လေ့လာခြင်း စစ်ဆေးခြင်းများ ဆောင်ရွက်ခြင်း ရှိပါက ခွင့်ပြုရမည်။

(ဋ) အငှားချထားသည့် ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဌ) အငှားချထားသည့် ပစ္စည်းများနှင့် စပ်လျဉ်း၍ အလုံးစုံသောအာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါပြဋ္ဌာန်းချက်နှင့် အညီမပျက်မကွက် ထားရှိဆောင်ရွက် ရမည်။

(ဍ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့်စက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေထက်မလျော့ဘဲ ထိန်းသိမ်းထားရမည်။သို့ရာတွင် အကျိုး အကြောင်းဆီလျော်မှုရှိသော ပျက်စီးမှုများ အတွက်ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဎ) အငှားချထားသည့်စက်ရုံတွင်တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများအားလုံးသည် ငှားရမ်းခြင်း စာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန် မလိုဘဲ"**အငှားချထားသူ**"ပိုင်ပစ္စည်းများ အလိုအလျောက် ဖြစ်လာရမည်။ အကယ်၍ မိမိ တပ်ဆင်ထားသောပစ္စည်းအား အငှားချထားသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီ ကတည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက် ရယူထားရမည်။သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့် အခြား ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန် မလိုဘဲ ဖြုတ်ယူ သွားနိုင်သည်။

(ဏ) စက်ရုံမှ ထုတ်ကုန်များအား ပြင်ပ ဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူ ခွင့်ရှိသည်။

(တ) "**အငှားချထားခြင်းခံရသူ**" သည် တရားဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုရ။

(ထ) **"အငှားချထားခြင်းခံရသူ"** သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြား လုပ်ငန်းများအားလုပ်ကိုင်ဆောင်ရွက်လိုပါက "အငှားချထားသူ" ၏ သဘောတူ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဒ) **"အငှားချထားခြင်းခံရသူ"**မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး **"အငှားချထားသူ"** ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ဓ) အငှားချထားသည့်ပစ္စည်းရပ်များတွင် **"အငှားချထားသူ"**၏ (နေ့စား၊ လခစား) ဝန်ထမ်းများ အနက်ရှင်း တို့၏ဆန္ဒအလျောက်**"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ) သို့လိုက်ပါမည့် ဝန်ထမ်းများကို **"အငှားချထားခြင်းခံရသူ"**(ကုမ္ပဏီ)သည် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းမျဉ်း ဥပဒေနှင့်အညီ ကုမ္ပဏီ၏ စီမံခန့်ခွဲမှု (ကုမ္ပဏီဝန်ထမ်းအဖြစ်)ဖြင့် လွှဲပြောင်း လက်ခံ ဆောင်ရွက်ရမည်။

(န) **"အငှားချထားခြင်းခံရသူ"**သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ပြည်ပရင်းနှီးမြှုပ်နှံမှုများ နှင့် အကျိုးတူဖက်စပ်လုပ်ကိုင်ရန် လိုအပ်ပါက **"အငှားချထားသူ"** ၏ သဘောတူ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ပ) **"အငှားချထားခြင်းခံရသူ"** သည်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ သတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ရမည်။

(ဖ) **"အငှားချထားခြင်းခံရသူ"** သည် ပတ်ဝန်းကျင်အနှောက်အယှက် အန္တရာယ်ဖြစ်စေမည့် အကြောင်းအချက်များကို ကြိုတင်ကာကွယ်တားဆီး၍ ဖြစ်ပွားပါက ပြီးဆုံးသည့်တိုင်အောင် တာဝန်ယူ ဖြေရှင်းဆောင်ရွက်ရမည်။

(ဗ) နိုင်ငံတော်မှသတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ၊ ဒေသဆိုင်ရာလူမှုဘဝကိစ္စရပ်များနှင့်ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူ ဖြေရှင်းရမည်။

(ဘ) "အငှားချထားခြင်းခံရသူ"သည် မြန်မာနိုင်ငံတံဆိပ်ခေါင်း အက်ဥပဒေပုဒ်မ ၂၉(ဂ) အရ ကျသင့်သည့်တံဆိပ်ခေါင်း ခွန်ထမ်းဆောင်ရမည်။

(မ) "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက်သွယ်တန်းခြင်း၊တယ်လီဖုန်းဆက်သွယ်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက်နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့မဟုတ်) စာချုပ် ရပ်စဲ ခြင်းဖြစ်

ပါက အဆောက်အဦခိုင်ခန့်မှုကို မထိခိုက်စေဘဲ အလွယ်တကူ ဖြုတ်ယူနိုင်သည့် အဆိုပါ ပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြတ်တောက်ခြင်း များကို "အငှားချထားသူ"ထံ ခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ခွင့်ရှိသည်။

(ယ) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်း အသစ် ဖြည့်စွက်တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ် ငန်း(ရုံးချုပ်)သို့ ခွင့်ပြုချက်တောင်းခံ၍ ဆောင်ရွက်သွားနိုင်ပြီး စက်ရုံပြန်လည် လွှဲပြောင်းပေးချိန်တွင် တပ်ဆင်ထားသော စက်ပစ္စည်းများနှင့် တိုးချဲ့အဆောက်အဦများ အား နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ မူလစာချုပ်ပါ "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၃) နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၄)နှင့် အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၄။ အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) **"အငှားချထားခြင်းခံရသူ"**အား နောက်ဆက်တွဲများပါ အငှားချထားသည့်ပစ္စည်းများကို အသုံးပြုခွင့်ပေးရ မည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ် ၊ ရေ၊ တယ်လီဖုန်းတို့ကို **"အငှားချထားခြင်းခံရသူ"** အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့်စက်ရုံ၏ အခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များ လိုအပ်ပါကစေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(င) "အငှားချထားခြင်းခံရသူ"မှ အသုံးပြုလိုခြင်း မရှိကြောင်း ညှိနှိုင်း တင်ပြလာသည့် စက် ပစ္စည်းကိရိယာများကို စက်မှုဝန်ကြီးဌာနသို့တင်ပြ၍ လိုအပ်သလို စီမံခန့်ခွဲခွင့် ရှိသည်။

(စ) "အငှားချထားခြင်းခံရသူ"၏လုပ်ငန်းနှင့်မကိုက်ညီကြောင်းညှိနှိုင်းတင်ပြလာသည့် မူလအဆောက်အဦကို ရှင်းလင်းရန် စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ စီမံဆောင်ရွက်ခွင့်ရှိ သည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြားလို

အပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့်ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

(ဇ) စက်ရုံရှိ (နေ့စား/လခစား) ဝန်ထမ်းများအနက် "အငှားချထားခြင်းခံရသူ" (ကုမ္ပဏီ)သို့လိုက်မည့် ဝန်ထမ်းများကို အထူးပင်စင်ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်းအဖြစ် အပြီးအပြတ် လွှဲပြောင်းခွင့်ရှိသည်။

(ဈ) အငှားချထားသည့် စက်ရုံဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ "အငှားချထားခြင်းခံရသူ"၏ အခက်အခဲများကို သက်ဆိုင်ရာဌာနများသို့ "အငှားချထားခြင်းခံရသူ" တို့နှင့် ညှိနှိုင်း၍တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ည) "အငှားချထားသူ"သည် နိုင်ငံတော်၏မူဝါဒနှင့်အညီ ငှားရမ်းသည့် သဘောတူစာချုပ်ကို ပြင်ဆင်ချုပ်ဆိုခွင့်ရှိသည်။

၁၂။ မူလစာချုပ်တွင် မပါဝင်သော ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း ခေါင်းစဉ်အား အပိုဒ်(၁၅)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၅။ **"အငှားချထားခြင်းခံရသူ"** အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထု နှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များ တပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာ ထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ် အစီအစဉ်များ ဆောင်ရွက်ရမည်။

၁၃။ မူလစာချုပ်တွင် မပါဝင်သော ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ ခေါင်းစဉ်အား အပိုဒ်(၁၆)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၁၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

၁၄။ မူလစာချုပ်တွင် မပါဝင်သော အာမခံထားရှိခြင်း ခေါင်းစဉ်အား အပိုဒ်(၁၇)အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံ ဖြည့်စွက်ရမည်-

**အာမခံထားရှိခြင်း**

၁၇။ အငှားချထားခြင်းခံရသူသည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်မှုအာမခံ (Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်) တွင်အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

၁၅။ မူလစာချုပ်တွင် မပါဝင်သော စာချုပ်ပြန်လည်ညှိနှိုင်းခြင်း ခေါင်းစဉ်အား အပိုဒ်(၁၈)အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံ ဖြည့်စွက်ရမည် -

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၁၈။ စာချုပ်ပါစည်းကမ်းချက်များနှင့် အညီလုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းခွင့်ရှိစေရမည်။

၁၆။ မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၄)အား အပိုဒ်(၁၉) ဟု ပြောင်းလဲ ပြင်ဆင်ရမည်။

၁၇။ မူလစာချုပ်၏ သယံဇာတပစ္စည်းဆိုင်ရာကိစ္စ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၅)အား အပိုဒ် (၂၀) ဟု ပြောင်းလဲပြင်ဆင်ရမည်။

၁၈။ မူလစာချုပ်၏ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၆)အား ပယ်ဖျက်၍ အပိုဒ် (၂၁) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၁။ **"အငှားချထားခြင်းခံရသူ"**သည် ဤသဘောတူစာချုပ်ပါငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါ ယင်းသို့ကုန်ဆုံးသည့်နေ့မှ(၃၀)ရက်အတွင်း အငှားချထားသည့် စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ကိရိယာ များကို**"အငှားချထားသူ"** သို့ အဖိုးစားနားမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။သို့ရာတွင် သတ်မှတ်ကာလအတွင်း လွှဲပြောင်းခြင်းကိစ္စရပ်အား မပြီးစီးပါကခိုင်လုံသော အကြောင်းပြချက်ဖော်ပြ၍စာဖြင့်(၇)ရက်ကြိုတင်တင်ပြတောင်းခံညှိနှိုင်းဆောင်ရွက်ရမည်။

၁၉။ မူလစာချုပ်၏ အငြင်းပွားမှုဖြေရှင်းခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၇)အား အပိုဒ် (၂၂) ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၀။ မူလစာချုပ်၏ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၈)အား အပိုဒ် (၂၃)၊ အပိုဒ်(၁၉)အား ပယ်ဖျက်၍ အပိုဒ်(၂၄)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရမည် -

၂၄။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ ပေါ်ပေါက်ပါက ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့် အချိန်မှ ၁၄(တစ်ဆယ့်လေး)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ချင်း စာဖြင့် ရေးသား အကြောင်းကြားရမည်။"အငှားချထားသူ"က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး စက်ရုံ၊မြေ၊အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၂၁။ မူလစာချုပ်၏ စာချုပ်အတည်ဖြစ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၀)အား အပိုဒ် (၂၅)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၂။ မူလစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၁)အပိုဒ်(၂၂)တို့ကို ပယ်ဖျက်၍ အပိုဒ် (၂၆)အပိုဒ်(၂၇) အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

**စာချုပ်ပြင်ဆင်ခြင်း**

၂၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး**သို့ တင်ပြ၍ အတည်ပြုချက် ရယူဆောင်ရွက်နိုင်သည်။

၂၇။ "အငှားချထားခြင်းခံရသူ"မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှု မရှိခြင်း၊ အခြားသောအဆင်မပြေမှုများ ရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လကြိုတင်အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှစ၍ နောင်ထပ်မံငှားရမ်းသူ ရရှိသည့်အချိန်ကာလအထိ လက်ရှိငှားရမ်းခွင့်ရရှိသူမှ စက်ရုံနှင့်ပတ်သက်သည့် စက်ရုံငှားရမ်းခ၊ ဝန်ထမ်းလစာနှင့်စရိတ်များ ၊ပင်စင်ထည့်ဝင်ကြေးများ ၊ အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက်ပေးရမည်။

ကန့်သတ်





၂၃။ မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၃)အား အပိုဒ်(၂၈)ဟု ပြောင်းလဲပြင်ဆင် ရမည်။ အဆိုပါ အပိုဒ်(၂၈)တွင် ပုဒ်မခွဲ(စ)အဖြစ် အောက်ပါ အပိုဒ်ခွဲအား ထပ်မံ ဖြည့်စွက်ရမည်-

၂၈(စ)။ နိုင်ငံတော်၏ တည်ဆဲဥပဒေတစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှ ဖောက်ဖျက်ကျူးလွန်ခြင်း၊

၂၄။ မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၄)အား ပယ်ဖျက်၍ အပိုဒ်(၂၉) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၂၉။ စာချုပ်ရပ်စဲခြင်းသည် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါ တာဝန်ရှိမှုများအား အကြေအလည်ညှိနှိုင်း၍ ပြီးပြတ်ရှင်းလင်းပြီးမှသာ ရပ်စဲခြင်း ပြီးမြောက်ရမည်။ ယင်းသို့ ရှင်းလင်းပြီးပါက စာချုပ်ပါ ငှားရမ်းထားသော ပစ္စည်းများအားလုံးကို "အငှားချထားသူ"၏ ပိုင်ဆိုင်မှုသို့ လက်ဝယ်ပြန်လည် အပ်နှံရောက်ရှိစေရမည်။

၂၅။ မူလစာချုပ်၏ ပြန်လည်ဝင်ရောက်ပိုင်ခွင့် ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၅)၊(၂၆)(၂၇)အား အပိုဒ်(၃၀)၊(၃၁)(၃၂)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၆။ မူလစာချုပ်တွင် အပိုဒ်(၃၃)(၃၄)(၃၅)(၃၆)(၃၇)(၃၈)အဖြစ် အောက်ပါ စာပိုဒ်များဖြင့် ထပ်မံ ဖြည့် စွက်ရမည် -

၃၃။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၄ ခုနှစ် လ ရက် နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၄။ ဤ ပြင်ဆင်စာချုပ် သဘောတူ စာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှု မရှိဘဲ ဆက်လက်၍ အကျိုး သက်ရောက်မှု ရှိစေရမည်။

၃၅။ ဤပြင်ဆင်ချက် သဘောတူစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၆။ ဤစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်ချုပ်ဆိုနိုင်သည်။

ကန့်သတ်

ကန့်သတ်



၃၇။ ဤ ပြင်ဆင်ချက် သဘောတူစာချုပ်သည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။"

၃၈။ ဤပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၀၁၄ ခုနှစ် ဇူလိုင် လ ၁၈ ရက်နေ့တွင် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်။

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| ဦးရည်မွန် | ဦးဝင်းလွင် |
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ၊ |
| စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း | ကျော်သာကုမ္ပဏီလီမိတက် |

အသိသက်သေ

| | |
|---|---|
| ဒေါက်တာစိုးနိုင် | ဦးဝင်းမောင် |
| ညွှန်ကြားရေးမှူး | ဒါရိုက်တာ |
| စီမံရေးဌာန | ၉/မခန(နိုင်)၁၁၉၇၄၇ |
| | အမှတ်(၉၈)၊လမ်း(၅၀) |
| | ပုဇွန်တောင်မြို့နယ် |
| | ရန်ကုန်မြို့။ |
| ဦးသန်းထွန်း | ဒေါ်ဥမ္မာမြင့် |
| ညွှန်ကြားရေးမှူး | ဒါရိုက်တာ |
| ထုတ်လုပ်ရေးဌာန | ၁၂/ပဇတ(နိုင်)၀၀၇၉၀၉ |
| | အမှတ်(၉၈)၊လမ်း(၅၀) |
| | ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့ |
| ဒေါ်ခင်မြင့်သီ | |
| ညွှန်ကြားရေးမှူး | |
| ဘဏ္ဍာရေးဌာန | |

ကန့်သတ်

အမှတ်(၁)စက်မှုဝန်ကြီးဌာန

မြန်မာ့စက္ကူနှင့်ဓာတုဗေဒလုပ်ငန်း

နှင့်

ကျော်သာကုမ္ပဏီလီမိတက်

တို့

ချုပ်ဆိုသော

ဓာတုဗေဒပစ္စည်းစက်ရုံအားငှားရမ်းသည့်

သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၁ခုနှစ်၊ စက်တင်ဘာလ ၂၀ ရက်

# အမှတ်(၁)စက်မှုဝန်ကြီးဌာန
# မြန်မာ့စက္ကူနှင့်ဓာတုဗေဒလုပ်ငန်း
# နှင့်
# ကျော်သာကုမ္ပဏီလီမိတက်
# တို့
# ချုပ်ဆိုသော
# ဓာတုဗေဒပစ္စည်းစက်ရုံအား ငှားရမ်းသည့်သဘောတူစာချုပ်

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၁ ခုနှစ် စက်တင်ဘာလ( ၂၀ )ရက်နေ့၌ ...မှဆောင်ညွှန်ကြားရေးမှူး၊ ဦးရည်မွန် ကိုယ်စားပြုသော မြန်မာ့စက္ကူနှင့်ဓာတုဗေဒလုပ်ငန်း၊ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ (နောင်တွင် အငှားချထားသူ ဟုခေါ်တွင်စေပြီး၊ ယင်းစကားရပ်၌ ...အားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက်

နှင့်

ရန်ကုန်တိုင်းဒေသကြီး၊ ပုဇွန်တောင်မြို့နယ်၊လမ်း(၅၀)၊ အမှတ် (၉၈)နေ ဦးဝင်းလွင် ...ချုပ်မှုဒါရိုက်တာ၊ နိုင်ငံသားမှတ်ပုံတင်အမှတ်-၁၂/ဗတထ(နိုင်)၀၂၈၆၃၉ ကိုယ်စားပြုသော ...ကျော်သာကုမ္ပဏီလီမိတက်(နောင်တွင် အငှားချထားခြင်းခံရသူဟု ခေါ်တွင်စေပြီးယင်းစကားရပ် ...ယင်းအား ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦး ...သဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

## ...ရည်ရွယ်ချက်

...။ အငှားချထားသူပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊အမှတ်(၂)ရပ်ကွက် ...ရှိ ဓာတုဗေဒပစ္စည်းစက်ရုံကို အငှားချထားခြင်းခံရသူမှ ငှားရမ်းပြီး ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ...ချွတ်မှုန့်များ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်းများ ဆောင်ရွက်ရန် နှစ်ဦး ...သဘောတူစာချုပ်ချုပ်ဆိုခြင်းဖြစ်သည်။

## ...အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

...။ အငှားချထားသူသည် နောက်ဆက်တွဲတွင် အသေးစိတ်ဖော်ပြထားသော စက်ရုံ၊ မြေ၊ ...ဆောက်အဦနှင့် စက်ပစ္စည်းများကို ပိုင်ဆိုင်သူဖြစ်ပြီး အငှားချထားခြင်းခံရသူသည် စာချုပ်ကို ...ကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူ ...ဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် ...ခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

**အငှားချထားမည့်ပစ္စည်းများ**

၃။ အငှားချထားခြင်းခံရသူသည် အောက်ပါအငှားချထားသူပိုင်စက်ရုံ၊မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ ဆပ်ပြာမှုန့်၊ ဆပ်ပြာရည်၊ ချေးချွတ်မှုန့်များ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း၊ လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်-

(က) စက်ရုံအမည်နှင့်တည်နေရာ - ဓာတုဗေဒပစ္စည်းစက်ရုံ အမှတ်(၂)ရပ်ကွက်၊ လှိုင်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။ (နောက်ဆက်တွဲ(က)ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

(ခ) မြေ(ဧက) - ၁၃.၂၃ ဧက (နောက်ဆက်တွဲ(ခ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

(ဂ) အဆောက်အဦများ - (နောက်ဆက်တွဲ( ဂ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

(ဃ) စက်ပစ္စည်းကိရိယာများ - (နောက်ဆက်တွဲ(ဃ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

(င) ဓါတ်ခွဲခန်းသုံးပစ္စည်းများ - (နောက်ဆက်တွဲ(င)ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

(စ) ရုံးသုံးပရိဘောဂများ - (နောက်ဆက်တွဲ(စ)ဖြင့် ပူးတွဲဖော်ပြထားပါသည်။)

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလမှာ(၁-၁၀-၂၀၁၁)ရက်နေ့မှ(၃၀-၉-၂၀၁၆)ရက်နေ့အထိ(၅)နှစ်ကာလဖြစ်ပါသည်။

**စာချုပ်သက်တမ်း**

၅။ ၂၀၁၁ခုနှစ်အောက်တိုဘာလ(၁)ရက်နေ့မှ ၂၀၁၆ခုနှစ်စက်တင်ဘာလ(၃၀)ရက်နေ့ထိ (၅ )နှစ် ဖြစ်ပါသည်။

**လွှဲပြောင်းပေးမည့်ဝန်ထမ်းများ**

၆။ လွှဲပြောင်းပေးမည့်ဝန်ထမ်းအင်အားမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | လစာနှုန်း | ဦးရေ |
|---|---|---|
| (က) | ၁၄၀၀၀၀ိ-၂၀၀ိ-၁၅၀၀၀၀ိ | ၁ |
| (ခ) | ၁၂၀၀၀၀ိ-၂၀၀ိ-၁၃၀၀၀၀ိ | ၄ |
| (ဂ) | ၁၀၀၀၀၀ိ-၂၀၀ိ-၁၁၀၀၀၀ိ | ၆ |
| (ဃ) | ၆၅၀၀၀ိ-၁၀၀ိ-၇၀၀၀၀ိ | ၁၂ |
| (င) | ၅၉၀၀၀ိ-၁၀၀ိ-၆၄၀၀၀ိ | ၂၆ |
| (စ) | ၅၃၀၀၀ိ-၁၀၀ိ-၅၈၀၀၀ိ | ၃၄ |
| (ဆ) | ၄၇၀၀၀ိ-၁၀၀ိ-၅၂၀၀၀ိ | ၆၃ |
| (ဇ) | ၄၁၀၀၀ိ-၁၀၀ိ-၄၆၀၀၀ိ | ၃ |
| (ဈ) | ၃၅၀၀၀ိ-၁၀၀ိ-၄၀၀၀၀ိ | ၂ |
| (ည) | ၁၁၀၀ိ/နေ့စား | ၆ |
| | စုစုပေါင်း | ၁၅၇ |

၇။ လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့်ပတ်သက်၍ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-

(က) စက်ရုံရှိလွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို လစဥ် လစာ ထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းအရာတစုံတရာကြောင့် လစာနှုန်းထားများပြောင်းလဲခဲ့လျှင်ပြောင်းလဲသည့် နှုန်းထားအတိုင်း ထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုး တိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့်လစာနှင့် နှစ်တိုးကို ခံစားခွင့်ပြုရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် လက်ရှိတာဝန် ထမ်းဆောင်နေသော ဝန်ထမ်းများအား နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဆက်လက်တာဝန် ပေးအပ် ရမည်။

(င) ဝန်ထမ်းများ၏လစာ၊ နှစ်တိုး၊ စရိတ်များအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများအတိုင်း အငှားချထားခြင်းခံရသူမှ ဆက်လက်ပေးဆောင်ရမည်။ မူရင်းလစာအား နိုင်ငံတော်သတ်မှတ်နှုန်းထားထက် ပို၍မပေးရ။ ဆုကြေးနှင့် စရိတ်များအား အငှားချထားခြင်း ခံရသူမှ သင့်လျော်သလိုပေးနိုင်သည်။

(စ) ဝန်ထမ်းများ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်းဆိုင်ရာ ကိစ္စရပ်များအား အငှားချထားသူ၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ဆ) ဝန်ထမ်းများရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား နိုင်ငံတော်မှ သတ်မှတ်ထားသည့် ဝန်ထမ်းစည်းမျဥ်းများနှင့်အညီ နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) ဝန်ထမ်းရေးရာ ကိစ္စရပ်များနှင့် ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဈ) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသော ဝန်ထမ်းများအနက် ရာထူးမှ နုတ်ထွက်လိုခြင်း၊ နှစ်ပြည့်(သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက အငှားချထားသူထံ တင်ပြရမည်။

(ည) စက်ရုံဝန်ထမ်းအား အငှားချထားသည့် စက်ရုံနှင့် ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။

(ဋ) ဝန်ထမ်းများ၏ လူမှုဖူလုံရေး အကျိုးခံစားခွင့်ရရှိရေးအတွက် အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

(ဌ) ဝန်ထမ်းများ၏ သက်သာချောင်ချိရေး ကိစ္စများကို အငှားချထားခြင်းခံရသူမှ တာဝန်ယူရမည်။

(ဍ) ဝန်ထမ်းများ ရာထူးအနွယ် (Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန် အချိန်ကျရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စများကို အငှားချထားသူမှ ဆောင်ရွက်ရမည်။

(ဃ) ဝန်ထမ်းများ အလုပ်ခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက အငှားချထားခြင်းခံရသူမှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဏ) ဝန်ထမ်းရေးရာကိစ္စများနှင့် ပတ်သက်၍ မြန်မာ့စက္ကူနှင့် ဓာတုဗေဒလုပ်ငန်း ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဋ္ဌဖြင့် ဆောင်ရွက်သည့် စီမံခန့်ခွဲရေး အဖွဲ့မှ တာဝန်ယူ ဆောင်ရွက်ရမည်။

(တ) ဝန်ထမ်းအိမ်ရာတွင် လက်ရှိနေထိုင်လျက်ရှိသော ဝန်ထမ်းများအား ဆက်လက်နေထိုင်ခွင့်ပြုရမည်။ ဝန်ထမ်းအိမ်ရာများ၏ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကို အငှားချထားခြင်းခံရသူက တာဝန်ယူဆောင်ရွက်ရမည်။

**ငှားရမ်းခနှုန်းထား**

[illegible]။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ဓာတ်ခွဲခန်းသုံးပစ္စည်း၊ ရုံးသုံးပရိဘောဂများအပါအဝင် တစ်နှစ်လျှင်ကျပ်(၃၉.၆၀၀)သန်း (ကျပ်သုံးဆယ့်ကိုးသန်းနှင့် ခြောက်သိန်းတိတိ)ဖြစ်ပါသည်။

[illegible]။ ငှားရမ်းခနှုန်းထားအား(၆)လ(၁)ကြိမ် ပြန်လည်သုံးသပ်ပြီး နှစ်ဦး သဘောတူညီနိုင်း[illegible]ပြင်ဆင်ခြင်းအား အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်သည်။

**ငှားရမ်းခပေးချေခြင်း**

[illegible]။ အငှားချထားခြင်း ခံရသူသည် (၃)လအတွက် ငှားရမ်းခကျသင့်ငွေ ကျပ်(၉.၉)သန်းကို (၃)လ[illegible] (၃)လပြည့်သည့်လ၏ နောက်ဆုံးပတ်အတွင်း ပေးသွင်းရမည်။

[illegible]။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူသည် လိုအပ်ပါက (၃)လလျှင်တစ်ကြိမ် လုပ်ငန်း[illegible]ရွက်မှုအခြေအနေများအား ပြန်လည်သုံးသပ်၍ ငှားရမ်းခပေးချေမည့် အစီအစဉ်အား အမှတ်(၁)[illegible]ဝန်ကြီးဌာန စီမံခန့်ခွဲမှုကော်မတီ၏ ဆုံးဖြတ်မှုဖြင့် ပြန်လည်ပြင်ဆင် ဆောင်ရွက်နိုင်သည်။

**အငှားချထားခြင်းခံရသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

[illegible]။ အငှားချထားခြင်းခံရသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါသည် -

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများနှင့် ရုံးသုံးပရိဘောဂများကို နောက်ဆက်တွဲပါအတိုင်း ငှားရမ်း ဆောင်ရွက်ရမည်။

(ခ) ငှားရမ်းခွင့်ရရှိထားသော ဓာတုဗေဒပစ္စည်းစက်ရုံ မြေနှင့်အဆောက်အဦတွင် ဆပ်ပြာမှုန့်၊ဆပ်ပြာရည်၊ ချေးချွတ်မှုန့်များ ထုတ်လုပ်ခြင်းလုပ်ငန်းများ နှင့် ၄င်းနှင့် ဆက်စပ်သော လုပ်ငန်းများကိုသာ လုပ်ပိုင်ခွင့်ရှိသည်။

(ဂ) ငှားရမ်းခွင့်ရရှိထားသော စက်ရုံနှင့်ပစ္စည်းများအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရ။

(ဃ) ဓာတုဗေဒပစ္စည်းစက်ရုံ၏အဆောက်အဦနှင့် စက်ပစ္စည်းကိရိယာများကို လိုအပ်သည့်ပွမ်းမံပြင်ဆင်မှုများ ဆောင်ရွက်ရမည်။

(င) အငှားချထားသူ၏ စာဖြင့် ရေးသားထားသော ကြိုတင်ခွင့်ပြုချက်ကို မရရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပြောင်းလဲခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်းတို့ မပြုလုပ်ရ။

(စ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်မှစ၍ စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများ အားလုံးအား စာရင်းစစ် အစစ်ဆေးခံနိုင်ရေးနှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် စက်ရုံမငှားရမ်းမီအချိန်ထိ ရှိသည့်အတိုင်း စနစ်တကျ ထိန်းသိမ်းဆောင်ရွက်ရမည်။

(ဆ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝိရိယဖြင့် ကောင်းမွန်စွာထိန်းသိမ်းထားပြီး လိုအပ်သော ပြင်ဆင်မွမ်းမံမှုအားလုံးကို ပြုလုပ်ရမည်။ အကယ်၍ အဆိုပါပစ္စည်းများအားလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ မီးလောင်ခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လေမုန်တိုင်း ကျရောက်ခြင်း၊ ရေကြီးခြင်း၊ ရုန်းရင်းဆန်ခတ်မှုဖြစ်ပေါ်ခြင်း(သို့) အခြားမလွှဲမရှောင်နိုင်သည့် အကြောင်းတရားများကြောင့်ပျက်စီးသွား၍ ဆက်လက်အသုံးပြုရန် မသင့်လျော်ပါက အငှားချထားသူအား ဤစာချုပ်ကို ရပ်စဲပေးရန်(သို့)အသုံးပြုရန် သင့်လျော်သည့် ကျန်ရှိနေသည့် အစိတ်အပိုင်းအတွက် ငှားရမ်းခကို အချိုးကျ လျှော့ပေါ့ပေးရန် အမြန်ဆုံးအကြောင်း ကြားရမည်။ သို့ရာတွင် အငှားချထားသည့်ပစ္စည်းများ၏ ပျက်စီးဆုံးရှုံး ခြင်းဖြစ်ပေါ်ရခြင်းမှာ အငှားချထားခြင်းခံရသူ၏ မှားယွင်းသော လုပ်ဆောင်ချက်၊သင့်လျော်သလိုဆောင်ရွက်ရန်ပျက်ကွက်ခြင်း(သို့) ပေါ့လျော့ခြင်းကြောင့် ဖြစ်ပွားပါက အငှားချထားခြင်းခံရသူသည် ဤအပိုဒ်ပါ အခွင့်အရေးကို ရယူခံစား နိုင်ခွင့်မရှိသည့်အပြင် ယင်းပစ္စည်းများအား နဂိုမူလအခြေအနေသို့ရောက်ရှိအောင် ပြန်လည် ပြင်ဆင်မွမ်းမံရသည့် ကုန်ကျစရိတ်အားလုံးကို ပေးချေရမည်။

(ဇ) အငှားချထားသည့်စက်ရုံ၏ အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့်ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက အငှားချထားသူက နည်းလမ်းတကျ လုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။

(ဈ) အငှားချထားသည့် စက်ရုံတွင်အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေး ဆိုင်ရာ အသုံးပြုကြေး နှင့်အခွန်အခများအား သတ်မှတ်ရက် အတွင်း အချိန်မီ ပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာ အထောက်အထား မိတ္တူများအား အငှားချထားသူထံ လစဉ်ပေးပို့ရမည်။

(ည) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့်မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေများအား စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း ပေးချေရမည်။

(ဋ) အငှားချထားသည့် စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး အာမခံသက်တမ်း ကျော်လွန်မှု မရှိစေရေး တာဝန်ယူဆောင်ရွက်ရမည်။

(ဌ) လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။ စက်ရုံ၏ သန့်ရှင်းရေး၊ အထွေထွေလုံခြုံရေးတို့ကိုလည်း တာဝန်ယူဆောင်ရွက်ရမည်။

(ဍ) စက်ရုံမှထွက်ရှိသော အခိုးအငွေ့များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် သဘာဝ ပတ်ဝန်းကျင်ရှိမြေထု၊ ရေထု၊ လေထုတို့ကို ညစ်ညမ်းခြင်းမဖြစ်စေရန် ကာကွယ် ထားရှိရမည်။

(ဎ) အငှားချထားသူ ၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက် သွယ်တန်းခြင်း၊ တယ်လီဖုန်းဆက်သွယ်တပ်ဆင်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက်နိုင်သည်။ စာချုပ်သက်တမ်း ကုန်ဆုံးပါက သို့မဟုတ် အငှားစာချုပ် ရပ်စဲခြင်းဖြစ်ပါက အဆိုပါပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြုတ်တောက် ခြင်းများကို အငှားချထားသူ၏ ခွင့်ပြုချက်ရရှိမှသာ ပြန်လည်ဖြုတ်ယူခွင့် ရှိသည်။

(ဏ) အငှားချထားသည့်စက်ရုံတွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်း စာချုပ်သက်တမ်းကုန်ဆုံးသည့် အချိန်တွင် အခကြေး ငွေပေးရန် မလိုဘဲ အငှားချထားသူပိုင်ပစ္စည်းများ အလိုအလျောက် ဖြစ်လာ ရမည်။ အကယ်၍ မိမိတပ်ဆင်ထားသောပစ္စည်းအား အငှားချသည့် အဆောက် အဦလွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီကတည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက် ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့် အခြားရွှေ့ပြောင်း နိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(တ) အငှားချထားသည့်ပစ္စည်းများနှင့် စပ်လျဉ်း၍ မြေခွန်မှအပစည်ပင်သာယာခွန်၊ အခြားအခွန်အခများ၊ ကုန်ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့်အခွန်အခ အမျိုးမျိုး တို့ကို ကျခံပေးဆောင်ရမည်။

(ထ) ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့မှ တစ်လအတွင်း အငှားချထားသူသို့ အငှားချထားသည့် ပစ္စည်းများအားလုံးကို စတင်ငှားရမ်းခဲ့စဉ်က အခြေအနေ အတိုင်း ပြုပြင်မွမ်းမံပြီး အဖိုးစားနားမပါရှိဘဲ အငှားချထားသူ၏ လက်ဝယ် အရောက် ပြန်လည်အပ်နှံရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှု ရှိသော ပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဒ) စက်ရုံကို လက်ခံသည့်နေ့တွင် ကုန်ချောများ၊ တစ်ပက်တစ်ပျက်ကုန်ချောများ၊ ကုန်ကြမ်းများ၊ စက်အရန်ပစ္စည်းများ၊ စက်သုံးဆီများ အစရှိသည့် ကုန်ခမ်းနိုင်သည့် ပစ္စည်းများကို အငှားချထားခြင်းခံရသူ မှ အသုံးပြုမည်ဆိုပါက နှစ်ဖက်ညှိနှိုင်း တန်ဘိုးသင့်၍ အငှားချထားသူ သို့ ပေးချေရမည်။

(ခ) ကုန်ချောပစ္စည်းများကို သတ်မှတ်စက်စွမ်းအားထက် မကျော်လွန်စေ ထုတ်လုပ်ခွင့်ရှိပြီး၊ ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြ လွတ်လပ်စွာရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(န) စက်ရုံမှ လက်ရှိထုတ်လုပ်နေသော ကုန်တံဆိပ်ကို ဆက်လက်အသုံးပြုပါက အရည်အသွေးကျဆင်းမှုမရှိစေရန် စံချိန်စံညွှန်းနှင့်ကိုက်ညီသော ကုန်ကြမ်းမျာ ကို သတ်မှတ်ထားသော အချိုးအစားအတိုင်း အသုံးပြုထုတ်လုပ်ရမည်။

(ပ) အငှားချထားခြင်းခံရသူ၏ ကိုယ်ပိုင်ကုန်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ် ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါကုန်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေ များကို ချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် အငှားချထားခြင်းခံရသူ၏ တာဝန်သာ ဖြစ်သည်။

(ဖ) စာချုပ်ပါသက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ် မြေအောက်မှ မမျှော်လင့်ဘဲ ဓာတ်သတ္တု အရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာ ပစ္စည်းများ၊သဘာဝသယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက် ရတနာများ အစရှိသည်တို့ကို တွေ့ရှိပါက အငှားချထားသူထံ ချက်ချင်း အကြောင်းကြားရမည်။ အဆိုပါပစ္စည်းများသည် အငှားချထား ခြင်းခံရသူနှင့် သက်ဆိုင်ခြင်း မပြုစေရ၊ အငှားချထားသူသည် အဆိုပါပစ္စည်း များကို လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေမည့်အပြင် နိုင်ငံတော်အစိုးရသို့ လွှဲပြောင်း တင်ပြခွင့် ရှိစေရမည်။

(ဗ) စက်ရုံမှ မထုတ်လုပ်ဘူးသော ကုန်ပစ္စည်းအမယ်သစ်ကို ထုတ်လုပ်လိုပါက အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်ရပြီးမှသာ ထုတ်လုပ်နိုင်ခွင့်ရှိသည်။

(ဘ) အငှားချထားသည့်စက်ရုံတွင် ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့် မညီ ညွတ်သောလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(မ) အငှားချထားခြင်းခံရသူမှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာ ဌာန ဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများ ထားရှိပြီး အငှားချထားသူထံ မိတ္တူတစ်စုံအပ်နှံထားရမည်။

(ယ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား အငှားချထားခြင်း ခံရသူ၏ အစီအမံဖြင့် စီစဉ်ဆောင် ရွက်ရမည်။

(ရ) စက်ရုံရှိ မော်တော်ယာဥ်များနှင့် ပတ်သက်၍ စက်သုံးဆီနှင့် ပြုပြင်ထိန်းသိမ်းမှု များကို အငှားချထားခြင်းခံရသူမှ တာဝန်ယူ ဆောင်ရွက်ပေးရမည်။

**အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၃။ အငှားချထားသူ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) အငှားချထားခြင်း ခံရသူသို့ အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော သဘာဝဓာတ်ငွေ့၊ လျှပ်စစ်၊ ရေ၊ တယ်လီဖုန်း တို့ကို အငှားချထားခြင်းခံရသူအား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံအခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချသည့် ပစ္စည်းများကိုလည်းကောင်း၊နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ် သော ကိုယ်စားလှယ်များစေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(ဃ) အငှားချထားသူသည် ခိုင်လုံသော အကြောင်းကြောင့် လိုအပ်ပါက စာချုပ် သက်တမ်း မပြည့်မီ အငှားချထားသည့် စက်ရုံနှင့် စက်ပစ္စည်းကိရိယာများအား အငှားချထားခြင်းခံရသူထံမှ ပြန်လည်သိမ်းယူခွင့်ရှိသည်။

(င) စက်ရုံအတွက် ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(စ) စက်ရုံတွင်အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား အငှားချထားခြင်းခံရသူမှ လစဉ် အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(ဆ) အငှားချထားသည့် စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များ ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်း ဆောင်ရွက်ပေးရမည်။

(ဇ) အငှားချထားသည့် စက်ရုံနှင့်သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်း ကျော်လွန်မှုမရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

၁၄။ အငှားချထားခြင်းခံရသူသည် စက်ရုံငှားရမ်းရေးစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် အငှားချစက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ် ငှားရမ်း လိုသည့်ကာလနှင့် ငှားရမ်းခ နှုန်းထားကိုဖော်ပြလျက်စာချုပ် သက်တမ်းတိုးမြှင့်ပေးပါရန် အငှားချထားသူထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ(၃)လ ကြိုတင်၍ စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့်ကာလအတွက် နှစ်စဉ် ငှားရမ်းခနှုန်းထားကိုနှစ်ဦးနှစ်ဘက်ညှိနှိုင်းသတ်မှတ်ရမည်။ထိုသို့သက်တမ်းတိုးမြှင့်ခြင်း၊ ငှားရမ်းခ နှုန်းထားပြင်ဆင်ခြင်းတို့သည် အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ အတည်ပြုချက် ရရှိမှသာ အတည်ဖြစ်စေရမည်။

**သယံဇာတပစ္စည်းဆိုင်ရာကိစ္စ**

၁၅။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့်မြေပေါ်မြေအောက်မှ မမျှော်လင့်သော ဓာတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်းများ၊ သဘာဝ သယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများအစရှိသည်တို့ တွေ့ရှိလျှင် ထိုပစ္စည်းများကို အငှားချထားသူက ပိုင်ဆိုင်ရမည့်အပြင် အငှားချထားသူသည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရမည်။ အငှားချထားသူသည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ပိုင်ခွင့် ရှိစေရမည်။

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၆။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့် အခါဖြစ်စေ၊ ငှားရမ်းခြင်းရပ်စဲသည့် အခါဖြစ်စေ၊ ယင်းသို့ ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲ သည့် နေ့မှ ( ၃၀ )ရက်အတွင်း အငှားချထားသည့် စက်ရုံ၊ မြေ၊အဆောက်အဦနှင့် စက်ကိရိယာ များ ကို အငှားချထားသူသို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သော အနေထားဖြင့် ပြန်လည်လွှဲ ပြောင်း ပေးအပ်ရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၁၇။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်း ပွားမှုကို ငြိမ်းချမ်းသော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်း မရနိုင် ပါက ဥပဒေနှင့်အညီသက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

**မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ**

၁၈။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊မီးဘေး၊မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက် များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိပိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်း သုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှု အတွက် လျော်ကြေး တောင်းခံခွင့် မရှိစေရ။

၁၉။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်လာပါက ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူတို့ ချက်ချင်း စာဖြင့် ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန် နိုင်သော ဖြစ်ရပ်မြောက်ပြီး စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်း အသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက် ကာလအပိုင်း အခြားအတွက် ငှားရမ်းခကို သက်သာခွင့် ပြုနိုင်သည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၂၀။ ဤစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုးပြီး သည့်နေ့မှစ၍ အတည်ဖြစ်သည်။

စာချုပ်ပြင်ဆင်ခြင်း

၂၁။ ဤစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့၏ နှစ်ဦးနှစ်ဖက်တရားဝင်စာဖြင့် သဘောတူညီချက်နှင့် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ အတည်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

၂၂။ အငှားချထားခြင်းခံရသူမှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချက်ကိုက်မှုမရှိခြင်း၊ အခြားသောအဆင်မပြေမှုများ ရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်း ဆွေးနွေးရန် (၃)လကြိုတင် အကြောင်းကြားရမည်။

စာချုပ်ရုပ်သိမ်းခြင်း

၂၃။ စာချုပ်ရုပ်စဲခြင်းနှင့်စပ်လျဉ်း၍ ဤစာချုပ်ကို အောက်ပါအကြောင်းရပ် တစ်ခုခုပေါ်ပေါက်ပါက စာချုပ်ရုပ်စဲခွင့်ရှိသည်-

(က) မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း အစရှိသော မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့်ဖြစ်စေ၊ အငှားချထားခြင်းခံရသည့် စက်ရုံရှိပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက် ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း၊

(ခ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

(ဂ) စာချုပ်ပါစည်းကမ်းတစ်ရပ်ရပ်ကို အငှားချထားခြင်းခံရသူက ဖောက်ဖျက်ကျူးလွန်ခြင်း၊

(ဃ) အငှားချထားခြင်းခံရသူကလူမွဲအဖြစ်ခံယူသွားခြင်း၊

(င) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အား ရုပ်စဲလိုပါကရုပ်စဲလိုကြောင်း စာချုပ်ဝင် တစ်ဖက်ဖက်မှ အခြားတစ်ဖက်ဖက်သို့ (၃)လကြိုတင် နိုးတစ်ပေးခြင်း၊

၂၄။ စာချုပ်သက်တမ်း မကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ဖြစ်စေ၊ ပုဂ္ဂလိကပိုင် ပြုလုပ်ရန်ဖြစ်စေ၊ အငှားချထားသူမှ (၃)လ ကြိုတင်အကြောင်းကြား၍ စာချုပ်ကိုရုပ်စဲနိုင်သည်။ ယင်းသို့ဆောင်ရွက်ရာတွင်(အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည်ပြုချက် ရယူရမည်။)

ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၂၅။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့)လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့)လိုက်နာရန် အငှားချထားခြင်းခံရသူသို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့်စက်ရုံကို ပြန်လည်ဝင်ရောက် လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းတို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ (သို့)ပျက်စီးဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၆။ ဤစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်သည်။

၇။ အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါ အသိသက်သေ အစုံအလင် ရှေ့မှောက်တွင် ၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ ၂၀ ရက်၌ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုးကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| ဦးရည်မွန်<br>ဦးဆောင်ညွှန်ကြားရေးမှူး<br>မြန်မာ့စက္ကူနှင့်ဓာတုပဒေလုပ်ငန်း | ဦးဝင်းလွင်<br>အုပ်ချုပ်မှုဒါရိုက်တာ<br>ကျော်သာကုမ္ပဏီလီမိတက်<br>အမှတ်(၉၈)၊လမ်း(၅၀)<br>ပုဇွန်တောင်မြို့နယ်၊<br>ရန်ကုန်တိုင်းဒေသကြီး။ |

**အသိသက်သေများ**

| | |
|---|---|
| ၁။ ဦးအေးလွင်<br>အထွေထွေမန်နေဂျာ(စီမံကိန်း)<br>မြန်မာ့စက္ကူနှင့်ဓာတုပဒေလုပ်ငန်း | ၁။ ဦးမောင်အေး<br>ဒါရိုက်တာ<br>ကျော်သာကုမ္ပဏီလီမိတက် |
| ၂။ ဒေါ်စိုးစိုးဦး<br>အထွေထွေမန်နေဂျာ(ငွေစာရင်း)<br>မြန်မာ့စက္ကူနှင့်ဓာတုပဒေလုပ်ငန်း | ၂။ ဦးအေးချို့သန်း<br>ဒါရိုက်တာ<br>ကျော်သာကုမ္ပဏီလီမိတက် |
| ၃။ ဦးမောင်မောင်သန့်<br>စက်ရုံမှူး<br>ဓာတုပဒေပစ္စည်းစက်ရုံ | ၃။ ဦးအောင်ချမ်းသာ<br>မန်နေဂျာ<br>ကျော်သာကုမ္ပဏီလီမိတက် |

FROM : FAX NO. : 4 Jul. 2042 6:10PM P1

- ၂ (2) -

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ ဓာတ်ပုံ
ATTORNEY HOLDER PHOTO

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ၏အကြောင်းအရာ
PARTICULARS OF ATTORNEY HOLDER

၁။ အမည်
NAME

၂။ မှတ်ပုံတင်အမှတ်
REGISTRATION NO.

၃။ အလုပ်အကိုင်
OCCUPATION

၄။ နေရပ်လိပ်စာ
ADDRESS

၅။ တယ်လီဖုန်းအမှတ်
TELEPHONE NO.

ဤစာအုပ်တွင် စာမျက်နှာ (၃၂) ပါဝင်ပါသည်။
THIS PASSBOOK CONSISTS OF (32) PAGES.

- ၃ (3) -

Book. 2

စာရင်းအမှတ် FDM. 10. 1735
ACCOUNT NO.




MICB

စာရင်းပိုင်ရှင်၏ဓာတ်ပုံ
ACCOUNT HOLDER PHOTO

စာရင်းပိုင်ရှင်၏ အကြောင်းအရာ
PARTICULARS OF ACCOUNT HOLDER
Myat Ai Ba Co., Ltd

၁။ အမည် 1. U Win Lwin
NAME 2. Daw Myat Myat Maw

၂။ မှတ်ပုံတင်အမှတ် 1. 12/BaTaHta(N)028639
REGISTRATION NO. 2. 12/BaHaNa(N)071043

၃။ အလုပ်အကိုင် 1. Managing Director.
OCCUPATION 2. Director.

၄။ နေရပ်လိပ်စာ No. 111, Yangon - Insein Rd,
ADDRESS 9 Ward, Hlaing Tsp. Ygn

၅။ တယ်လီဖုန်းအမှတ်
TELEPHONE NO. - 8 SEP 2014

ထုတ်ပေးသည့်ရက်စွဲ
DATE OF ISSUE

- ၁၀ (10) - - ၁၁ (11) -

# မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်
## MYANMA INVESTMENT AND COMMERCIAL BANK

| စဥ်<br>SR. | ရက်စွဲ<br>DATE | အကြောင်းအရာ<br>PARTICULARS | သွင်းငွေ<br>DEPOSIT | | ထုတ်ငွေ<br>WITHDRAWAL | | လက်ကျန်ငွေ<br>BALANCE US.$ | | လက်မှတ် |
|---|---|---|---|---|---|---|---|---|---|
| | 06.11.14 | B/F | | | | | ၉၁၀၀ | 14 | MICB |
| | — | ကော်မ | | | ၂၅ | — | ၉၀၇၇ | 14 | MICB |
| | | | | | | | | | |
| | 17.12.14 | BM141509 | | | 1500 | — | ၇၅၉၇ | 14 | MICB |
| | | 816 | | | | | | | |
| | — | ကော်မ | | | ၂၅ | — | ၇၅၇၂ | 14 | MICB |
| | | | | | | | | | |
| | 11.2.15 | From Shwe | 20000 | — | | | ၂၇၅၇၂ | 14 | MICB |
| | | Sandaw Co Ltd. | | | | | | | |
| | 5.3.15 | From Shwe | 25000 | — | | | ၅၂၅၇၂ | 14 | MICB |
| | | Sakar Co, | | | | | | | |

- ၁၂ (12) - - ၁၃ (13) -

## မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကုန်သွယ်ရေးဘဏ်
## MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | ထုတ်ငွေ WITHDRAWAL | လက်ကျန်ငွေ BALANCE US.$ | လက်မှတ် |
|---|---|---|---|---|---|---|
| | 5.3.15 | B/F | | | 52572 14 | MICB |
| | 9.3.15 | Po to MOGE | | 10916 36 | 41655 78 | MICB |
| | " | comm | | - 97 | 41654 81 | MICB |
| | " | Po to MOGE | | 33761 26 | 7893 55 | MICB |
| | " | comm | | - 97 | 7892 58 | MICB |
| | 18.6.15 | RIT 15160 [illegible] | | 3500 - | 4392 58 | MICB |

- ၁၄ (14) - - ၁၅ (15) -

## မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကုန်သွယ်ရေးဘဏ်
## MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | ထုတ်ငွေ WITHDRAWAL | လက်ကျန်ငွေ BALANCE US.$ | လက်မှတ် |
|---|---|---|---|---|---|---|
| | 18.6.15 | B/F | | | 4392 58 | MICB |
| | " | comm | | 25 - | 4367 58 | MICB |
| | 24.6.15 | From Shwe Sabar Co, Ltd. | 22000 - | | 26367 58 | MICB |
| | 25.6.15 | RIT 15160 [illegible] | | 14250 - | 12117 58 | MICB |
| | " | comm | | 25 - | 12092 58 | MICB |

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ ဓာတ်ပုံ
ATTORNEY HOLDER PHOTO

တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ၏အကြောင်းအရာ
PARTICULARS OF ATTORNEY HOLDER

၁။ အမည် ..............................
NAME

၂။ မှတ်ပုံတင်အမှတ် ..............................
REGISTRATION NO.

၃။ အလုပ်အကိုင် ..............................
OCCUPATION

၄။ နေရပ်လိပ်စာ ..............................
ADDRESS

၅။ တယ်လီဖုန်းအမှတ် ..............................
TELEPHONE NO.

ဤစာအုပ်တွင် စာမျက်နှာ ( ၃၂ ) ပါဝင်ပါသည်။
THIS PASSBOOK CONSISTS OF (32) PAGES.



Book 6

စာရင်းအမှတ် FDF.10.0031
ACCOUNT NO.




MICB
28/11/...

စာရင်းပိုင်ရှင်၏ဓာတ်ပုံ
ACCOUNT HOLDER PHOTO

စာရင်းပိုင်ရှင်၏ အကြောင်းအရာ
PARTICULARS OF ACCOUNT HOLDER

First Top Co., Ltd.

၁။ အမည် 1. U Sein Min
NAME 2. U Nyan Min

၂။ မှတ်ပုံတင်အမှတ် 1. ALE.001215
REGISTRATION NO. 2. PME.003413

၃။ အလုပ်အကိုင် 1. Director
OCCUPATION 2. Director

၄။ နေရပ်လိပ်စာ No. 59, 16th St, Lanmadaw Tsp. Ygn
ADDRESS

၅။ တယ်လီဖုန်းအမှတ် 226154, 225910,
TELEPHONE NO. 226034

ထုတ်ပေးသည့်ရက်စွဲ 1 DEC 2014
DATE OF ISSUE

# မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်

## MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | ထုတ်ငွေ WITHDRAWAL | လက်ကျန်ငွေ BALANCE US.$ | လက်မှတ် |
|---|---|---|---|---|---|---|
| | | B/F | | | 138.88 | |
| | 26.2.2015 | Export TT VOB(Y) | 100000.- | | 100138.88 | |
| | | Comm | | 9.74 | 100129.14 | |
| | 27.2.2015 | To Aye Chan Myay Green Tel | | 100000.- | 129.14 | |
| | | Comm | | 2.- | 127.14 | |
| | 24.3.2015 | Export TT OCBC(Y) | 100000.- | | 100127.14 | |

စာရင်းပိုင်ရှင်၏ ဓာတ်ပုံ
ACCOUNT HOLDER PHOTO




စာရင်းပိုင်ရှင်၏ အကြောင်းအရာ
PARTICULARS OF ACCOUNT HOLDER

ACCOUNT NO. 1DA-04-91168

NAME OF ACCOUNT FIRST TOP CO LTD

| NAME(S)OF ACCOUNT HOLDER(S) | REGISTRATION NO. | OCCUPATION |
|---|---|---|
| U NYAN WAI | PME-003413 | DIRECTOR |
| U SEIN MIN | ALE-001215 | DIRECTOR |

NO-59, 16 TH ST, YANGON

ထုတ်ပေးသည့်ရက်စွဲ
DATE OF ISSUE 20/12/2013

# မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်
## MYANMA FOREIGN TRADE BANK

| စဉ်<br>SR. | ရက်စွဲ<br>DATE | အကြောင်းအရာ<br>PARTICULARS | သွင်းငွေ<br>DEPOSIT | ထုတ်ငွေ<br>WITHDRAWAL | လက်ကျန်ငွေ<br>BALANCE | လက်မှတ်<br>SIGNATURE |
|---|---|---|---|---|---|---|
| 1 | 26/03/14 | BF | | | 14421.44 | |
| 2 | 26/03/14 | FR 1EA0400716 K | 173,104.70 | | 187,526.14 | |
| 3 | 31/03/14 | P2014T/2579 | | 185,625.00 | 1,901.14 | |
| 4 | 31/03/14 | P2014T/2579 | | 232.03 | 1,669.11 | |
| 5 | 12/06/14 | ITTP3462/14 | 95,400.00 | | 97,069.11 | |
| 6 | 13/06/14 | To 1DA0490830 K | | 29,000.00 | 68,069.11 | |
| 7 | 13/06/14 | Bank Charges | | 2.00 | 68,067.11 | |
| 8 | 13/06/14 | To 1DA0691930 M | | 49,900.00 | 18,167.11 | |
| 9 | 13/06/14 | Bank Charges | | 3.00 | 18,164.11 | |
| 10 | 04/07/14 | To 1DA0691930 M | | 18,000.00 | 164.11 | |
| 11 | 04/07/14 | Bank Charges | | 3.00 | 161.11 | |

ကျော်သာကုမ္ပဏီလီမိတက်
Kyaw Tha
Company Limited.
KYAW THA CO LTD

ကျော်သာကုမ္ပဏီလီမိတက် ၏
ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ။(၁၀.၁၀.၂၀၁၃)
ကျင်းပသည့်အချိန်။ ။နံနက်(၉း၃၀)နာရီ
ကျင်းပသည့်နေရာ။ ။ကုမ္ပဏီရုံးခန်း
တက်ရောက်သူများ။ (၁) ဦးဝင်းလွင် (အုပ်ချုပ်မှုဒါရိုက်တာ)
(၂) ဦးမောင်အေး (ဒါရိုက်တာ)
(၃) ဦးအေးချိုသန်း (ဒါရိုက်တာ)
(၄) ဦးဝင်းမောင် (ဒါရိုက်တာ)
(၅) ဦးလှချစ်တင် (ဒါရိုက်တာ)
(၆) ဦးမောင်အေး(ခ)ဦးကောက်စိန် (ဒါရိုက်တာ)

ဆုံးဖြတ်ချက်(၁)

ကုမ္ပဏီအမည်သစ်ပြောင်းလဲသုံးစွဲရန်ကိစ္စနှင့်ပတ်သက်၍ ယခုအချိန်၌ နိုင်ငံတကာနှင့်ဆက်သွယ်ဆောင်ရွက်ရာတွင် "ကျော်သာကုမ္ပဏီလီမိတက်" အမည်ဖြင့် လုပ်ကိုင်ရန် အခက်အခဲ အနည်းငယ် ရှိသဖြင့် ဦးဝင်းလွင်နှင့် ဒေါ်မြတ်မြတ်မော် တို့နှစ်ဦး ပါဝင်ဖွဲ့စည်းထားသည့် "မြတ်မိဘကုမ္ပဏီလီမိတက်" အမည်သစ်ဖြင့် ပြောင်းလဲသုံးစွဲ၍ ဆက်လက်လုပ်ကိုင်သွားရန် ဒါရိုက်တာများအားလုံးမှသဘောတူညီကြောင်းဆုံးဖြတ်ကြပါသည်။

ဆုံးဖြတ်ချက်(၂)

ကျော်သာကုမ္ပဏီအနေဖြင့် စက်မှုဝန်ကြီးဌာန၊စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် နှစ်ရှည်ငှားရမ်းလုပ်ကိုင်ခွင့်ရရှိထားသည့် ဆပ်ပြာမှုန့်စက်ရုံ(ရန်ကုန်)၊ စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်) နှင့် မြန်မာ့ထီးစက်ရုံခွဲ(လှိုင်) "စက်ရုံ(၃)ရုံတို့အား ငှားရမ်းသည့်သဘောတူစာချုပ်"များကိုလည်း " မြတ်မိဘကုမ္ပဏီလီမိတက် " အမည်ဖြင့် ပြောင်းလဲချုပ်ဆို၍ ဆက်လက် လုပ်ကိုင်ဆောင်ရွက်သွားရန်လည်း ဒါရိုက်တာများအားလုံးမှ သိရှိသဘောတူညီကြောင်းကိုလက်မှတ်ရေးထိုး၍ ဆုံးဖြတ်ကြပါသည်။

| | | |
|---|---|---|
| (ဝင်းလွင်) အုပ်ချုပ်မှုဒါရိုက်တာ | (မောင်အေး) ဒါရိုက်တာ | (အေးချိုသန်း) ဒါရိုက်တာ |
| (ဝင်းမောင်) ဒါရိုက်တာ | (လှချစ်တင်) ဒါရိုက်တာ | (မောင်အေး(ခ)ကောက်စိန်) ဒါရိုက်တာ |

အတည်ပြုသူ-
ကျော် သာ ကု မ္ပ ဏီ လီ မိ တက်

..............................
ဝင်းလွင်(အုပ်ချုပ်မှုဒါရိုက်တာ)

No. 04180

NO. 98, 50th STREET, PAZUNDAUNG TOWNSHIP, YANGON, UNION OF MYANMAR. TEL : 296733/297112
TLX : 21201/21236 (BM) 2083 WL, FAX : (951) 296914/299935
E-mail : kyawtha@cybertech.net.mm

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန**
**ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန**
**ရုံးအမှတ် (၃၂) နေပြည်တော်**

စာအမှတ်၊ ၇က-၈ (ဂ)၀၀၁/၂၀၁၃(၀၁၀၇၅၅)
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဩဂုတ်လ ( ၁၉ ) ရက်

သို့

အဆိုပြု ဒါရိုက်တာ
**မြတ်မိဘ ကုမ္ပဏီ လီမိတက်**
အမှတ်(၁၁၁)၊ ရန်ကုန်-အင်းစိန်လမ်း၊ (၉)ရပ်ကွက်၊
လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် ထုတ်ပေးခြင်း**

၁။ **မြတ်မိဘ ကုမ္ပဏီ လီမိတက်**အား မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့် အညီ မှတ်ပုံတင်ခွင့် လျှောက်ထားခဲ့ရာ၊ ဤရုံးတွင် မှတ်ပုံတင် အမှတ် - ၁၃၀၀/၂၀၁၃-၂၀၁၄ ဖြင့် (၁၇-၆-၂၀၁၃) နေ့၌ ပေးရန်တာဝန်ခွဲဝေ ကန့်သတ်ထားသော အများ နှင့် မသက်ဆိုင်သည့် ကုမ္ပဏီ အဖြစ် မှတ်ပုံတင် ထားပြီးဖြစ်ပါ၍၊ ဤမှတ်ပုံတင် လက်မှတ်ကို ထုတ်ပေး လိုက်သည်။

၂။ အဆိုပါ မှတ်ပုံတင် လက်မှတ်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ အရ **မြတ်မိဘ ကုမ္ပဏီ လီမိတက်** အမည်ကို တရားဝင် အသုံးပြုရန် အတွက်သာ ထုတ်ပေးခြင်း ဖြစ်ပြီး၊ သင်းဖွဲ့မှတ်တမ်း ရည်ရွယ်ချက်ပါ လုပ်ငန်းများကို လုပ်ကိုင်ခွင့် ပေးခြင်း မဟုတ်ပါ၊ သို့ဖြစ်၍ ယင်းလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ရာတွင် တည်ဆဲ ဥပဒေ စည်းမျဉ်း စည်းကမ်းများနှင့် အညီ လိုက်နာဆောင်ရွက်ကြရန်ဖြစ်ကြောင်း သိသာပါရန် ဖော်ပြပါသည်။

၃။ ဤကုမ္ပဏီမှ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ တည်ထောင်ခွင့် ပြုပြီးသော ကုမ္ပဏီဖြစ်သည့် အလျောက် ယင်းဥပဒေအရ ပူးတွဲပါ အချက်အလက်များကို မပျက်မကွက် လိုက်နာ ဆောင်ရွက်ရန် ဖြစ်ကြောင်းဖော်ပြပါသည်။

၄။ ဤကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၏ သက်တမ်းသည်(၅)နှစ်သာ ဖြစ်ပါသည်။ သက်တမ်း မကုန်ဆုံးမီ(၃)လ အလိုတွင် သက်တမ်းတိုးရန် ဤဌာနသို့တင်ပြလျှောက်ထားရမည်ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(မြင့်လွင်၊ ဒုတိယညွှန်ကြားရေးမှူး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းဦးစီးရုံး
ရုံးလက်ခံ
မျှောစာတွဲ

010641

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၁၃၀၀....... / ၂၀၁၃–၂၀၁၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ......မြတ်မိဘ ကုမ္ပဏီ လီမိတက်......

......အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၂၀၁၃ နှစ်၊ ...ဇွန်... လ၊ ...၁၇ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(နန်းရီရီသန်း၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ......1300...... of 2013- 2014

I hereby certify that ......MYAT MI BA COMPANY LIMITED......

......is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this ......SEVENTEENTH......day of JUNE, TWO THOUSAND AND THIRTEEN.

**For Director General**
**(Nang Yi Yi Than, Director)**
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ............ ဦးဝင်းလွင် (၁၂/ဗတထ(နိုင်)၀၂၈၆၃၉)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ ............ အမှတ်(၁၁၁)၊ ရန်ကုန်–အင်းစိန်လမ်း၊ (၉)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ............ ၀၁–၇၀၆၈၈၃၊ ၀၁–၅၂၆၁၆၃၊ ၀၁–၅၁၆၀၈၉

(ဃ) ဒါရိုက်တာများ အမည်စာရင်း– ............ ၁။ ဒေါ်မြတ်မြတ်မော် ၁၂/ဗဟန(နိုင်)၀၇၁၀၄၃

မှတ်ချက် ။

(၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၇–၆–၂၀၁၃ )မှ ( ၁၆–၆–၂၀၁၈ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီး မြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင် လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မြင့်လွင်၊ ဒုတိယညွှန်ကြားရေးမှူး )

မြတ်မီဘ ကုမ္ပဏီလီမိတက်

| 1. Name and Address of Enterprise<br>လုပ်ငန်းအမည်နှင့် လိပ်စာ<br>MYAT MI BA COMPANY LIMITED.<br>NO.(111), YANGON-INSEIN MAIN ROAD,(9) WARD, HLAING TOWNSHIP, YANGON. | 4. Registration No. & Date 2 7 2013<br>ကြီးကြပ်အမှတ်နှင့် နေ့စွဲ HTA THA KA-30954<br>The Government of the Republic of the Union of Myanmar<br>Ministry of Commerce<br>Directorate of Trade<br>ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ<br>စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန<br>ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန<br>CERTIFICATE OF EXPORTER/IMPORTER REGISTRATION<br>ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ်<br>Note: ☐ Please tick ( ✓ ) where applicable<br>သက်ဆိုင်ရာအကွက်ကိုအမှန် အမှတ်အသားပြုပါ |
|---|---|
| 2. Contact No. ဆက်သွယ်ရန်<br>706883 (Telephone No. တယ်လီဖုန်းနံပါတ်) 516089 (Fax No. ဖက်စ်နံပါတ်) ........ (Telex No. တဲလက်စ်နံပါတ်) | |
| 3. Business Registration No. 1300/2013-2014 (17-6-2013)<br>လုပ်ငန်းမှတ်ပုံတင်အမှတ် | |

5. Type of Business လုပ်ငန်းအမျိုးအစား

☐ a) Sole Proprietorship တစ်ဦးတည်းပိုင် ☐ b) Partnership အစုစပ် ☑ c) Limited Company (Myanmar or Foreign) လီမိတက်ကုမ္ပဏီ (မြန်မာ / နိုင်ငံခြား) ☐ d) Co-operative Society သမဝါယမအသင်း

☐ e) Others (please specify) အခြား (ဖော်ပြရန်) ကျောက်ပါလုပ်ငန်း (၄၇) မျိုး အောင်ရွက်ခွင့်ရှိသည်။

6. Terms and Conditions စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter / Importer subject to the following terms and conditions:
အောက်ဖော်ပြပါ စည်းကမ်းချက်များဖြင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the export/ Import Rules and Regulations prescribed for the registered Exporters/Importers.
လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန်သွင်းကုန်လုပ်ငန်း လုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(c) The registration is valid for 6-MONTH year(s) up to 17-6-2013 TO 16-12-2013 (ယာယီ)
မှတ်ပုံတင်သက်တမ်း နှစ် နေ့ထိ

For DIRECTOR GENERAL
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

2.7.2013

Stamp
ရုံးတံဆိပ်

7. Extension of Export/Import Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်အား သက်တမ်းတိုးမြှင့်ပေးခြင်း

Period Extended
သက်တမ်းတိုးမြှင့်သည့်ကာလ

Authorised Signature & Name
ခွင့်ပြုသူလက်မှတ်နှင့်အမည်

(1) .................. up to .................. ..................
နေ့မှ ထိ

(2) .................. up to .................. ..................
နေ့မှ ထိ

(3) .................. up to .................. ..................

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 18th of June 200 2013

on the of 200 of the * MYAT MI BA CO.,LTD.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 5000 Shares

" " " " ..................

Nominal amount of the shares so allotted .................. Ks.500,000,000/-

" " " " ..................

Amount paid or due and payable on cash such share .................. Ks.100,000/- (Fully Paid Up)

" " " " ..................

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ..................

Amount to be treated as paid on each such share ..................

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

WIN LWIN
MANAGING DIRECTOR
MYAT MI BA CO., LTD.

**Presented for filing by :** U Win Lwin (M.D)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U Win Lwin 12/Ba Ta Hta (Naing)028639 | No.98, Ground Floor, 50th Street, Pazundaung Township, Yangon. | Merchant | | 3500 |
| 2. Daw Myat Myat Maw 12/Ba Ha Na (Naing)071043 | No.98, Ground Floor, 50th Street, Pazundaung Township, Yangon. | Merchant | | 1500 |
| | | | Total | 5000 Shares |

Signature

Date 18.6.2013

FORM VI

FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : MYAT MI BA CO.,LTD.

Presented by : U Win Lwin

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Win Lwin | Myanmar 12/Ba Ta Hta (Naing)028639 | No.98, Ground Floor, 50th Street, Pazundaung Township, Yangon. | Merchant | Managing Director |
| 2. Daw Myat Myat Maw | Myanmar 12/Ba Ha Na (Naing)071043 | No.98, Ground Floor, 50th Street, Pazundaung Township, Yangon. | Merchant | Director |
| 3. U Win Maung | Myanmar 9/Ma Kha Na (Naing)119747 | No.12/4, 25th Street, Ward No.1, Pabedan Township, Yangon. | Merchant | Appointed as Director w.e.f 6.11.2013 |
| 4. U Tin Maung Lat | Mon-Tamel 10/Ma La Ma (Naing)049541 | No.75(B), Tamwe Street, Bo Cho (1)Ward, Bahan Township, Yangon. | Merchant | Appointed as Director w.e.f 6.11.2013 |
| 5. U Win Shwe | Myanmar 14/Ya Ka Na (Naing)064581 | No.15, Mya Street, Bahan Township, Yangon. | Merchant | Appointed as Director w.e.f 6.11.2013 |

NOTE :

(1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ............................

Designation ............................

Dated this ......6.11.2013..........

Form (26)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြတ် မိဘ ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# MYAT MI BA COMPANY LIMITED.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြတ် မိဘ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် မြတ် မိဘ ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀၀၀၀၀၀၀၀ /-( ကျပ် သန်းငါးထောင် တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀ /-( ကျပ် တစ်သိန်း တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၅။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၁။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၂။ သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၃။ တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
၄။ ရေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၅။ ဓါတ်မြေသြဇာနှင့် ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
၆။ ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
၇။ စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
၈။ အိမ်သုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၉။ လူသုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၀။ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများရောင်းဝယ်ခြင်း
၁၁။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၂။ ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
၁၃။ ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း
၁၄။ ဆေးနှင့်ဆေးပစ္စည်းများရောင်းဝယ်ခြင်း
၁၅။ စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၆။ အထည်အလိပ်နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
၁၇။ စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
၁၈။ ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများရောင်းဝယ်ခြင်း
၁၉။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
၂၀။ (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
၂၁။ တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
၂၂။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
၂၃။ ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
၂၄။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၅။ အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၆။ ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၇။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
၂၈။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
၂၉။ စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၀။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၁။ အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
၃၂။ အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
၃၃။ အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
၃၄။ ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
၃၅။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
၃၆။ ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
၃၇။ သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
၃၈။ ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
၃၉။ တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
၄၀။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
၄၁။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
၄၂။ ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
၄၃။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
၄၄။ ဆောက်လုပ်ရေးလုပ်ငန်း
၄၅။ ကျောက်မျက်လုပ်ငန်း
၄၆။ ခရီးသွားလုပ်ငန်း
၄၇။ ဟိုတယ်လုပ်ငန်း

၆။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဦး ဝင်းလွင်<br>ကုန်သည်<br>အမှတ်(၉၈)၊ မြေညီထပ်၊ လမ်း-၅၀၊<br>ပုဇွန်တောင်မြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဗတထ(နိုင်)၀၂၈၆၃၉ | ၃၅၀၀ | |
| ၂ | ဒေါ် မြတ်မြတ်မော်<br>ကုန်သည်<br>အမှတ်(၉၈)၊ မြေညီထပ်၊ လမ်း-၅၀၊<br>ပုဇွန်တောင်မြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဗဟန(နိုင်)၀၇၁၀၄၃ | ၁၅၀၀ | |

နေပြည်တော် ။ နေ့စွဲ ၊ ၂၀၁၃ ခုနှစ်၊ ၀၆ လ၊ ၁၀ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြတ် မိဘ ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀၀၀၀၀၀၀၀ /-(ကျပ် **သန်းငါးထောင်** တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀ /-(ကျပ် **တစ်သိန်း** တိတိ)တန်အစုရှယ်ယာပေါင်း ၅၀၀၀၀ ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၄င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း
သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ (၁၅) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

( ၁ ) ဦး ဝင်းလွင်　　　　( ၂ ) ဒေါ် မြတ်မြတ်မော်

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု ရှတိအလင်း ထုတ်ဖော် ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း ၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ ၊ ဒီဘင်ချာစတော့(ခ်)များ ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှု များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန် ၊ သို့မဟုတ် အစုရှယ်ယာများ ၊ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော် လည်းကောင်း ၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း ၊ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန် ၊ ထို့အပြင် အဆိုပါ ကိစ္စများအတွက် ကုမ္ပဏီ၏ မည့်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကိုဖြစ်စေ ၊ တစ်စိတ်တစ်ဒေကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေးဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၄င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ဖြစ်သောမည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဥ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီးများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျှောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ ၊မပါသည် ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန် ၊ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ် များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်းချက်များ ပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သော လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

